ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

တနင်္သာရီတိုင်းဒေသကြီး

ကော့သောင်းခရိုင်

ကော့သောင်းမြို့

# KMOT Company Limited

## လှိုက်ဂူကျွန်း ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်

ရက်စွဲ။ - - ၂၀၁၅။

လိုဏ်ဂူကျွန်းဟိုတယ်

ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ်

ကြိုတင်ကာကွယ်ရေးစီမံချက်

**နိဒါန်း**

၁။ လိုဏ်ဂူကျွန်းဟိုတယ်သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့မှ မိုင်(၅၀)ခန့်ကွာဝေးပြီး ဟိုတယ်တွင် လာရောက်တည်းခိုကြမည့် ပြည်တွင်း/ပြည်ပမှ ဧည့်သည်များ၊ အဆောက်အဦးများနှင့် ဟိုတယ်အသုံးအဆောင်ပစ္စည်းများကို မီးဘေးအန္တရာယ်နှင့် သဘာဝဘေးအန္တရာယ်တို့မှ ကင်းဝေးစေရန်ရည်ရွယ်၍ ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်ကို ရေးဆွဲရခြင်းဖြစ်ပါသည်။

**သတင်း**

၂။ **အဆောက်အဦအခြေအနေ။** အုတ်၊ ကွန်ကရစ်ဟိုတယ်ဖြစ်ပြီး အဆောက်အဦး (၂၀)လုံးဖြင့် ဖွဲ့စည်းတည်ဆောက်ထားပါသည်။

၃။ **ဝန်ထမ်းအင်အား။** ဟိုတယ်အုပ်ချုပ်မှုနှင့် ဝန်ထမ်း(၅၆)ဦးဖြင့် လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ **ရေရှိရေး။** ကျွန်းမှ ရေချိုနှင့် ပင်လယ်မှ ရေငန်များရရှိနိုင်ပါသည်။

၅။ **မီးငြိမ်းသတ်ရေးပစ္စည်းကိရိယာများ။** ဟိုတယ်တွင် ဓါတုဗေဒမီးသတ်ဆေးဘူး များနှင့် အပေါ့စားမီးသတ်ရေစုတ်စက်များ လုံလောက်စွာထားရှိပါမည်။

၆။ **လျှပ်စစ်မီး။** နေရောင်ခြည်စွမ်းအင် (ဆိုလာ)နှင့် မီးစက်ဖြင့် လျှပ်စစ်ဓါတ်အားရရှိရေး ဆောင်ရွက်သွားပါမည်။

၇။ **သဘာဝဘေးအန္တရာယ်။** ပင်လယ်ကျွန်းဖြစ်သည့်အတွက် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားကျရောက်နိုင်ပါသည်။

၈။ **မီးလောင်မှုဖြစ်ပွားနိုင်သောအချက်အလက်များ။** အောက်ဖော်ပြပါ အချက်အလက်များကြောင့် မီးလောင်မှုများဖြစ်ပွားနိုင်ပါသည်-

(က) လျှပ်စစ်ဓါတ်အားပိုမိုသုံးစွဲခြင်း၊ ဝါယာရှော့ဖြစ်ခြင်း။

(ခ) ဧည့်သည်များ၏ စီးကရက်မီးကြွင်းမီးကျန်မှ လောင်ကျွမ်းခြင်း။

(ဂ) တောမီးမှ ကူးစက်လောင်ကျွမ်းခြင်း။

(ဃ) လေပြင်းများတိုက်ခတ်ခြင်း မိုးကြိုးပစ်ခြင်းကြောင့် မီးလောင်ကျွမ်းခြင်း။

**လုပ်နည်း**

၉။ **အကြမ်းဖျဉ်းစီမံချက်။** အောက်ပါအတိုင်း အပိုင်း(၃)ပိုင်းခွဲ၍ ဆောင်ရွက်သွားပါမည်-

(က) **အပိုင်း(၁)။** မီးဘေးနှင့် သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်း။

(ခ) **အပိုင်း(၂)။** မီးလောင်မှုနှင့် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားပါက ဆောင်ရွက်ခြင်း။

(ဂ) **အပိုင်း(၃)။** မီးလောင်မှုဖြစ်ပွားပြီးနှင့် သဘာဝဘေးအန္တရာယ်ကျရောက်ပြီးနောက် ဆောင်ရွက်ခြင်း။

၁၀။ **အသေးစိတ်စီမံချက်။** အောက်ပါအတိုင်း ဆောင်ရွက်သွားပါမည်-

(က) **အပိုင်း(၁)။ မီးဘေးနှင့် သဘာဝဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်း။** နေ့စဉ် အခန်း သန့်ရှင်းရေးဝန်ထမ်းများအား ဧည့်သည်များ၏ စီးကရက်မီးကြွင်းမီးကျန်များ သန့်ရှင်းခြင်း၊ မလိုအပ်သော မီးခလုတ်များပိတ်ခြင်း၊ မီးထိန်းစက် ၊ ရေပူရေအေးပေးစက်များ စစ်ဆေးခြင်း၊ မီးတားလမ်းများ ဖောက်လုပ် ထားခြင်း၊ အသက်ကယ်အင်္ကျီ၊ အသက်ကယ်လှေများထားရှိခြင်း၊ သဘာဝဘေးအန္တရာယ်ဖြစ်ပွားပါက ဆောင်ရွက် ရမည့်အချက်များအား အဆောက်အဦတိုင်းတွင် ထားရှိပေးခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ်နှင့် သဘာဝဘေး အန္တရာယ်များ ကျရောက်ပါက ဆောင်ရွက်ရမည့်အချက်များအား အဆောက်အဦတိုင်းတွင် ထားရှိပေးခြင်း၊ ဝန်ထမ်းများအား မီးဘေးအန္တရာယ်များ ကျရောက်ပါက ဆောင်ရွက်ရမည့်အချက်များအား ဇာတ်တိုက်လေ့ကျင့်ခြင်း၊ မိုးတွင်းကာလရိက္ခာနှင့် လိုအပ်သောပစ္စည်းများ စုဆောင်းထားခြင်းနှင့် မိုးလေဝသသတင်း ထုတ်ပြန်ကြေငြာချက်များအား အချိန်နှင့်တစ်ပြေးညီ ရရှိရေး ဆောင်ရွက်သွားမည်။

(ခ) **အပိုင်း(၂)။ မီးလောင်မှုနှင့်သဘာဝဘေးအန္တရာယ်များဖြစ်ပွားပါက ဆောင်ရွက်ခြင်း။** အောက်ပါအတိုင်းဆောင်ရွက်သွားမည်-

(၁) **မီးငြိမ်းသတ်ရေးအဖွဲ့၊** ဟိုတယ်လုံခြုံရေးဝန်ထမ်းနှင့် ဟိုတယ်ဝန်ထမ်း(၂၀) ဦးတို့မှ မီးလောင်မှုအချက်ပေးသံကြားသည်နှင့် မီးလောင်ရာနေရာသို့ သွားရောက်၍ မီးသတ်ဆေး ဘူး၊ ရေ (သို့မဟုတ်) ပင်လယ်ရေအား မီးသတ်ရေစုတ်စက်အကူအညီဖြင့် ငြိမ်းသတ်ရေး ဆောင်ရွက်မည်။

(၂) **ကယ်ဆယ်ရေးအဖွဲ့၊** ကယ်ဆယ်ရေးအဖွဲ့အား ဝန်ထမ်းအင်အား(၁၀)ဦးဖြင့် ဖွဲ့စည်း မည်ဖြစ်ပြီး မီးလောင်မှုနှင့် သဘာဝဘေးအန္တရာယ်များ ကျရောက်ပါက ဧည့်သည်နှင့် ဝန်ထမ်းများ၊ မိသားစုများ၊ ဟိုတယ်ပစ္စည်းများအား မီးလွတ်ရာနှင့် သဘာဝဘေး အန္တရာယ်လွတ်ကင်းရာ နေရာသို့ ရွှေ့ပြောင်းပေးခြင်း၊ လိုအပ်သောရိက္ခာနှင့် အသုံး အဆောင်ပစ္စည်းများ သယ်ယူခြင်းများဆောင်ရွက်သွားပါမည်။

(၃) **ဆက်သွယ်ရေးအဖွဲ့။** ဟိုတယ်မန်နေဂျာနှင့် ရုံးဝန်ထမ်းများသည် အနီးစပ်ဆုံး လုံခြုံရေးအဖွဲ့အစည်းများဖြစ်သော တပ်မတော်(ရေ)၊ ပင်လယ်ပြင်စိုးမိုးရေးတပ်များ သို့လည်းကောင်း၊ ကုမ္ပဏီရုံးနှင့် ကုမ္ပဏီတာဝန်ရှိသူများထံသို့လည်းကောင်း၊ အနီးဆုံး ကျေးရွာအုပ်ချုပ်ရေးမှူးထံသို့လည်းကောင်း တယ်လီဖုန်း (CDMA)၊ လက်ကိုင် စကားပြောစက်၊ (E-mail) များဖြင့် သတင်းပို့ဆောင်ရွက်ပြီး လိုအပ်သော စီမံခန့်ခွဲမှုနှင့် အကူအညီများရရှိရေး ဆောင်ရွက်သွားပါမည်။

(ဂ) **အပိုင်း(၃)။ မီးလောင်မှုဖြစ်ပွားပြီး၊ သဘာဝဘေးအန္တရာယ်ကျရောက်ပြီးနောက် ဆောင်ရွက်ခြင်း။** မီးလောင်မှုသော်လည်းကောင်း၊ သဘာဝဘေးအန္တရာယ်ကျရောက်ခဲ့ပြီး ချိန်တွင် ဧည့်သည်စာရင်းစစ်ဆေးခြင်း၊ ဝန်ထမ်းအင်အား စစ်ဆေးခြင်း၊ ထိခိုက်ဒဏ်ရာရမှုရှိ/မရှိ စစ်ဆေးခြင်းများ ဆောင်ရွက်ပြီး ထိခိုက်ဒဏ်ရာရ ပျောက်ဆုံးမှုများရှိပါက ကုသခြင်း၊ ရှာဖွေခြင်း များဆောင်ရွက်သွားပါမည်။ လူနှင့်ပစ္စည်းဆုံးရှုံးမှုစာရင်း ကောက်ယူခြင်းများ ဆောင်ရွက်ပြီးပါက ဒေသဆိုင်ရာ အစိုးရအဖွဲ့အား ဖြစ်စဉ်သတင်းပို့ခြင်း၊ အကူအညီတောင်းခံ၊ နေရာပြည်လည်ချထား ခြင်းများ ဆောင်ရွက်သွားပါမည်။

**အုပ်ချုပ်မှုနှင့်ကွပ်ကဲမှု**

၁၁။ ဟိုတယ်မီးဘေးလုံခြုံရေးနှင့် သဘာဝဘေးအန္တရာယ်များ ကြိုတင်ကာကွယ်ရေးစီမံချက်ကို ထိရောက်စွာ ဆောင်ရွက်နိုင်စေရန် ကြီးကြပ်ကွပ်ကဲရေးအဖွဲ့ကို အောက်ပါအတိုင်း ဖွဲ့စည်းထားပါသည်-

| | | |
|---|---|---|
| (က) | မန်နေဂျာ | အဖွဲ့ခေါင်းဆောင် |
| (ခ) | ဟိုတယ်မန်နေဂျာ | ဒုအဖွဲ့ခေါင်းဆောင် |
| (ဂ) | အလုပ်သမားကြီးကြပ်ရေးမှူး(၁) | အဖွဲ့ဝင် |
| (ဃ) | အလုပ်သမားကြီးကြပ်ရေးမှူး(၂) | အဖွဲ့ဝင် |
| (င) | အလုပ်သမားကြီးကြပ်ရေးမှူး(၃) | အဖွဲ့ဝင် |

**သယ်ယူပို့ဆောင်ရေး**

၁၂။ လှိုဏ်ဂူကျွန်းသည် ကော့သောင်းမြို့မှ ရေမိုင်(၅၆)မိုင်ခန့်အကွာတွင် တည်ရှိသောကြောင့် ရေကြောင်းလမ်း တစ်ခုကိုသာ အသုံးပြုရမည်ဖြစ်ပြီး ကျွန်းသို့ အလုပ်သမား ရိက္ခာနှင့်ဆောက်လုပ်ရေးပစ္စည်းကို သယ်ယူပို့ဆောင်ရေး အတွက် အောက်ပါရေယာဉ်များကို အသုံးပြုသွားမည်ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | Speed Boat | (၂) စီး |
| (ခ) | ကုန်ကဲ့လှေ | (၂) စီး |
| (ဂ) | ပဲ့ချိတ်လှေငယ် | (၂) စီး |

**ဆက်သွယ်ရေး**

၁၃။ အောက်ပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) တယ်လီဖုန်း

(ခ) လက်ကိုင်စကားပြောစက်

(ဂ) (E-mail)

(ဃ) ဆက်သား

**နိဂုံး**

၁၄။ ယခုအခါ ဒေသတွင်း ခရီးသွားလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးအား နိုင်ငံတော်အစိုးရမှအားပေးနေသည်နှင့် အမျှ ပင်လယ်ကမ်းရိုးတန်းသဘာဝပတ်ဝန်းကျင်တွင် အနားယူလိုသော ပြည်တွင်း/ပြည်ပဧည့်သည်များ တိုးတက်လာသည့်အချိန်တွင် ဧည့်သည်များ စိတ်ချမ်းမြေ့စွာ အနားယူဆောင်ရွက်နိုင်ရေး ဝန်ဆောင်မှုကောင်းများပေးရမည် ဖြစ်သကဲ့သို့ မီးဘေးအန္တရာယ်နှင့် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားလာပါက ဆုံးရှုံးမှုအနည်းဆုံးဖြင့် ဧည့်သည်နှင့် တာဝန်ထမ်းဆောင်နေသောဝန်ထမ်းများ ဘေးအန္တရာယ်လုံခြုံမှုအား ဦးစီးပေး၍ ကြိုးပမ်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

KMOT
INVESTMENT

## ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်
## သာယာပျော်ရွှင်ရေးအစီအစဉ်များ

ကျွန်တော်တို့၏ KMOT Company Limited သည် ဝန်ထမ်းများ၏ သက်သာချောင်ချိရေးနှင့် သာယ
ပျော်ရွှင်ရေးအတွက် ရက်မှန်ကြေး၊ အချိန်ပိုကြေးနှင့် နှစ်သစ်ကူးကာလများတွင် ဝန်ထမ်းများလျှော်အိမ်းသုံးစွဲနိုင်ေ
နှစ်သစ်ကူးအပိုဆုကြေးများ ထုတ်ပေးသွားမည်ဖြစ်ပါသည်။ ဘာသာရေးနှင့်ဆက်စပ်၍ နေ့ကြီးရက်ကြီးများတွ
ကုသိုလ်ကောင်းမှုပြုနိုင်ရန် အလုပ်ပိတ်ရက်ပေးခြင်းနှင့် ၎င်းအပြင်ဝန်ထမ်းများ၏ လုပ်ရည်ကိုင်ရည်ပေါ်မူတည်ပြ
လုပ်သက်ဆုကြေးများ၊ အပိုဆောင်းဆုကြေးများနှင့် အချိန်ပိုကြေးများ ပေးအပ်သွားမည်ဖြစ်ပါသည်။

ဝန်ထမ်းများ ကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသေ
နှင့် လိုအပ်သောဆေးဝါးများထားရှိပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများ၏ တကိုယ်ရေသန့်ရှင်းရေးများအတွက
ရေလုံလောက်စွာ ရရှိရေးစီစဉ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။ ဝန်ထမ်းများအား မြို့နယ်လူမှုဖူလုံရေးအသင်းတွ
အသင်းဝင်အဖြစ် ဝင်ရောက်စေမည်ဖြစ်ပြီး နာမကျန်းပါက ရသင့်သည့် ဝန်ထမ်းအခွင့်အရေးများ အပြည့်အဝခံစားခွ
ပေးပြီး ဆေးကုသမှုခံယူစေမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.


**KMOT Co., Ltd.**
No. (G-3), Ta Pin Shwe Htee Tower, Corner of Ta Pin Shwe Htee Street & Nyaung Tone Street, Hlaing Thar Yar Township, Yangon, Myanmar
Telephone Number 95 - 1 - 684923 / 95 - 1 - 684903 / 95 - 1 - 684620

KMOT
INVESTMENT

## တည်ဆောက်လုပ်ကိုင်လည်ပတ်မည့်ကာလအား ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ KMOT Company Limited သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ လိုက်ဂူကျွန်းရှိ အသုံးပြုနိုင်သော မြေ(၆၀)ဧကအား တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီဟိုတယ် အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

KMOT Company Limited သည် အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိသည့် နေ့မှ အနည်းဆုံးနှစ်(၅၀)နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း (၂)ကြိမ်အပါအဝင် စုစုပေါင်း နှစ်(၇၀) မပျက်မကွက်လည်ပတ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.

**KMOT Co., Ltd.**
No. (G-3), Ta Pin Shwe Htee Tower, Corner of Ta Pin Shwe Htee Street & Nyaung Tone Street, Hlaing Thar Yar Township, Yangon, Myanmar
Telephone Number 95 1 684923 / 95 1 684903 / 95 1 684620

KMOT

INVESTMENT

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ KMOT Com
pany Limited မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ B.O.
စနစ်ဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများအား အလုံအလောက်ထာ
ရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းခွင်ပတ်ဝန်းကျင်အား ဝန်ထမ်းအင်အားအပြည့်ဖြင့် အချိန်ပြည့်သန့်ရှင်းရေ
လုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်
မွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ဆောက်လုပ်ရေးလုပ်ငန်းများမှ ထွက်ရှိသည့် စွန့်ပစ်ပစ္စည်းများ၊ မြေစာများနှင့် အခြားစွန့်ပစ်ပစ္စည်းများအာ
ပတ်ဝန်းကျင်မထိခိုက်စေရန်နှင့် စွန့်ပစ်ပစ္စည်းအမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စနစ်တကျစွန့်ပစ်နိုင်ရ
စီစဉ်ထားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ရေဆိုးများအား သန့်စင်အောင် နိုင်ငံတကာမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ သန့်စင်ပြီ
မှသာ စွန့်ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျစွန့်ပစ်ခြင်းနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ ချမှတ်ထားသေ
စည်းမျဉ်းစည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်စီမံချက်ရေးဆွဲဆောင်ရွက်သွားမည
ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director

**KMOT Co., Ltd.**
No. (G-3), Ta Pin Shwe Htee Tower, Corner of Ta Pin Shwe Htee Street & Nyaung Tone Street, Hlaing Thar Yar Township, Yangon, Myanmar
Telephone Number: 95 - 1 - 684923 / 95 - 1 - 684903 / 95 - 1 - 684620

KMOT
INVESTMENT

# ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် Waste Water Treatment Plant တပ်ဆင်ထားမှုတင်ပြခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ KMOT Company Limited မှ နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းတည်ဆောက်လုပ်ကိုင်ရာတွင် ရေဆိုးများအာ ကမ္ဘာ့ကျန်းမာရေးအဖွဲ့အစည်းမှ သတ်မှတ်ပြဌာန်းထားသော ခေတ်မီနည်းစနစ်များသုံးစွဲ၍ နောက်ဆုံးပေါ်စက် ပစ္စည်းကိရိယာများကို သုံးစွဲပြီး ရေဆိုးများကို ပတ်ဝန်းကျင်နှင့် အများပြည်သူအား အန္တရာယ်မပြုနိုင်အော စနစ်တကျပြုလုပ်ဆောင်ရွက်ပြီးမှသာ ရေမြောင်းများအတွင်းသို့ စွန့်ပစ်မည်ဖြစ်ပါသည်။

ဟိုတယ်လုပ်ငန်းဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအာ ပင်လယ်အတွင်းသို့ တိုက်ရိုက်စွန့်ပစ်မှု မရှိဘဲ သန့်စင်ပြီးမှသာလျှင် စွန့်ပစ်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.

KMOT
INVESTMENT

## လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ KMOT Company Limited သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ လိုက်ဂူကျွန်းရှိ အသုံးပြုနိုင်သော မြေ(၆၀)ဧကအား တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီဟိုတယ် အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းအတွက် လိုအပ်သောလျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူအသုံးပြုနိုင်ခြင်း မရှိသည့်အတွက် ကိုယ်ပိုင်မီးစက် (Generator-150 KVA) ကို အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.

KMOT

ဝန်ထမ်းများ၏ ဝင်ငွေခွန်ပေးဆောင်ရေးနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ KMOT Company Limited သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်အတွင်းရှိ လိုဏ်ဂူကျွန်းရှိ အသုံးပြုနိုင်သော မြေ(၆၀)ကေအား တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ထံမှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီဟိုတယ် အဆောက်အဦးများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

မိမိတို့ ကုမ္ပဏီဝန်ထမ်းများ၏ လစာငွေ(၁)နှစ်လျှင် ကျပ်(၂၀၀၀၀၀၀/-)နှင့် အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသော နှုန်းထားများအတိုင်း ပေးဆောင်ရေးအား ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.

**KMOT Co., Ltd.**
No. (G-3), Ta Pin Shwe Htee Tower, Corner of Ta Pin Shwe Htee Street & Nyaung Tone Street, Hlaing Thar Yar Township, Yangon, Myanmar
Telephone Number 95 - 1 - 684923 / 95 - 1 - 684903 / 95 - 1 - 684620

KMOT

INVESTMENT

## ကာစီနိုလောင်းကစားဝိုင်းများ မပြုလုပ်ကြောင်း ဝန်ခံကတိပြုချက်

ကျွန်တော်တို့၏ KMOT Co.,Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့ေ
မြို့နယ် အတွင်းရှိ လိုဏ်ဂူကျွန်းတွင် မြေဧရိယာ (၉၀၀) ဧက အား တနင်္သာရီတိုင်းဒေသကြီးအစိုးရ အ
B.O.T စနစ်ဖြင့် ငှားရမ်းပြီး အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ တည်ဆောက်၍ လုပ်ငန်း ဆောင်ရွက်သွ
ဖြစ်ပါသည်။

KMOT Co.,Ltd သည် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ ‌
လုပ်ကိုင်ဆောင်ရွက်ပါမည်။ ကာစီနိုလောင်းကစားဝိုင်းများ မပြုလုပ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited.

**KMOT Co., Ltd.**
No. (G-3) Ta Pin Shwe Htee Tower, Corner of Ta Pin Shwe Htee Street & Nyaung Tone Street, Hlaing Thar Yar Township, Yangon, Myanmar
Telephone Number 95 - 1 - 684923 / 95 - 1 - 684903 / 95 - 1 - 684620

KMOT
INVESTMENT

## CSR ရန်ပုံငွေထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ KMOT Co.,Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သေ
မြို့နယ် အတွင်းရှိ လှိုဏ်ဂူကျွန်းတွင် မြေဧရိယာ (၉၀၀) ကေ အား တနင်္သာရီတိုင်းဒေသကြီးအစိုးရ အဖွဲ့
B.O.T စနစ်ဖြင့် ငှားရမ်းပြီး အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ တည်ဆောက်၍ လုပ်ငန်း ဆောင်ရွက်သွား
ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏ နှစ်စဉ် အမြတ်ငွေမှ 2% အား ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ (CSR) ရန်ပုံငွေ အ
ထားရှိသုံးစွဲမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။ ၎င်းရန်ပုံငွေကို ပညာရေး၊ ကျန်းမာရေး၊ လမ်းပန်းဆက်သွယ
၊ လူမှုရေးနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းများအတွက် သုံးစွဲရန် လျာထားပါကြောင်း တင်ပြအပ်ပါသ

လေးစားစွာဖြင့်

Kyin Sein
Managing Director
KMOT Company Limited

စာအမှတ်၊ ၀၁၁ / စီမံကိန်း / ၂

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ

သို့

ဝန်ကြီးချုပ်

တိုင်းဒေသကြီး အစိုးရအဖွဲ့

တနင်္သာရီတိုင်း ဒေသကြီး

ထားဝယ်မြို့

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘော မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၉.၈.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၅/ န-၀၂၉/ ၂၀၁၅ (၆၂၅)

(၂) တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ၇.၉.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၅၁ ၈၃၉/၈-၃၉/အဖရ (တနင်္သာရီ)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလ ကျေးရွာအုပ်စုရှိ လှိုဏ်ဂူကျွန်းပေါ်တွင် KMOT Co.,Ltd မှ သဘာဝကို အခြေခံသော အပန်းဖြေစခန် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြခဲ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက် အစီအစဉ်များအား ပြန်လည် တင်ပြပေးရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းချက်(၁) လည်းကောင်း၊ တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ ရည်ညွှန်းချက်(၂) ဖြင့်လည်းကောင်း အကြေ ကြားလာပါသည်။

၂။ KMOT Co.,Ltd သည် အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ လုပ်ဆောင်ခြင်းကြေ ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် အတွ လုပ်ငန်း စီမံချက်ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း တို့အတွက် စနစ်တ ပြည့်စုံကောင်းမွန်စွာ ဆောင်ရွက်ပါမည်။ ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များ စက်ကိရိယာများ အသုံးပြု ဆောင်ရွက်မည်ဖြစ်ပါသည်။ လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (CSR) အတွ နှစ်စဉ်လုပ်ငန်း အသားတင်အမြတ်ငွေ၏ (၂)ရာခိုင်နှုန်းအား တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ချုပ်ဆို

B.O.T စာချုပ်ပါ ကတိကဝတ်များ အတိုင်း လိုက်နာ ဆောင်ရွက်မည် ဖြစ်ပါသည်။

၃။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် အညီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) နှင့် ပတ်ဝန်းကျင်ဆို စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန် အတွက် KMOT Co., သည် ရန်ကုန်မြို့ရှိ National Engineering & Planning Services (NEPS) Co., Ltd ထံ လုပ်ငန်းအ ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။ လုပ်ငန်းလုပ်ဆောင်မည့် NEPS Co., Ltd ၏ Proposal for Environme and Social Impact Assessment-ESIA နှင့် Environmental Management Plan- EMP အစီအစဉ်များ ပူးတွဲတင်ပြအပ်ပါသည်။

**ပူးတွဲ(၂)စုံ**

လေးစားစွာဖြင့်၊

14/9/2015
Kyin Sein
Managing Director
KMOT Company Limited.

မိတ္တူကို-
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၄၆/ ၂၅၇ / အဖရ (၆/၂၀၁
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၅ ရ

အ မှာ စာ

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd. တို့အကြ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆော လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များအ စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြခြင်း။**

၁။ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၀ ရက် (အင်္ဂါ)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထော သမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၅) မှတ်တ ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန်ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**ဝန်ကြီးချုပ်**
**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

၄၆။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd. တို့ အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည် ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များ အပေါ် စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြခြင်း။

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ်၊ မတ်လ ၃ ရက် နေ့စွဲပါအမှာစာ အမှတ်၊ ၈၃၇/ ၈-၃၇/ အဖရ(တနင်္သာရီ)။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
တနင်္သာရီတိုင်းဒေ
အစိုးရအဖွဲ့။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊၂(၅) ၃ - ၇၉ /နပတ(၁၄

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁ ၁ ရ

**အကြောင်းအရာ။** **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co., Ltd အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှ တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချ (မူကြမ်း) (မြန်မာ-အင်္ဂလိပ်) များအပေါ် သဘောထားမှတ်ချ တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။

(၁) တိုင်းဒေသကြီးအစိုးရအဖွဲ့၊တနင်္သာရီတိုင်းဒေသကြီး၏ ၄-၅-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂၅၆၈ / ၈၃၉ / ၈-၃၉/ အဖရ (တနင်္သာရီ)

(၂) တိုင်းဒေသကြီးအစိုးရအဖွဲ့၊တနင်္သာရီတိုင်းဒေသကြီး၏ ၁၇-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၆၆၁၂/ ၇၂၈ /၇-၂၈/ အဖရ (တနင်္သာရီ)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂-၁၂-၂၀၁၄ ရက်စွဲပါစာအမှ ၂(၅) ၃-၁၅၈ /နပတ (၁၀၁၅)

၁။ KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့ပူးပေါင်းဖွဲ့စည ထားသော KMOT Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလို ကျေးရွာအုပ်စုရှိ လိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧကပေါ်တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှ အညီ အပန်းဖြေစခန်းနှင့်ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် တနင်္သာရီတိုင်းဒေသကြ အစိုးရအဖွဲ့နှင့် KMOT Co., Ltd တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း) နှ

တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) (မြန်မာ/ အင်္ဂလိပ်) တို့
အပေါ် ဥပဒေအကြံပြုချက်များပေးနိုင်ပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့က ရည်ညွှန်း
ချက်(၁)ပါစာဖြင့် ဗင်ပြသာဆောက်ရွက်ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါ စာချုပ်(မူကြမ်း)များနှင့်စပ်လျဉ်း၍ မြန်မာဘာသာဖြင့် ပြုစု
ထားသော မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း
ဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)တို့အား တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့က ရည်ညွှန်းချက်
(၂)ပါ စာဖြင့် ဥပဒေအကြံပြုချက်များ တောင်းခံလာ၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးက မြန်မာနိုင်ငံ
သားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စိစစ်ပြီး ရည်ညွှန်းချက်(၃)ပါစာဖြင့် ပြန်ကြားပြီးခဲ့ပါ သည်။

၃။ ယခုအခါ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သည် ရည်ညွှန်းချက်(၁)ပါစာ၌
"KMOT Co.,Ltd သည် KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့
ပူးပေါင်းဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အပန်း
ဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း" ဟု ဖော်ပြလျက် (မြန်မာ-
အင်္ဂလိပ်) ၂ ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း)များကို ရည်ညွှန်းချက်(၁)ပါစာဖြင့်
ထပ်မံပေးပို့၍ ဥပဒေအကြံပြုချက်ထပ်မံတောင်းခံလာခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ သို့ပါ၍ အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း) ၂ ရပ်အနက်
တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (B.O.T Contract) (မူကြမ်း)
အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ရည်ညွှန်းချက်(၁)ပါစာ၌ ဖော်ပြချက်အရ KMOT Co.,Ltd သည် မြန်မာ
ကုမ္ပဏီဖြစ်သော KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co
Ltd တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်သည်ဆိုသေ
အချက်အား စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ ထည့်သွင်းဖော်ပြရန် လိုအ
ပါသည်၊

လျှို့ဝှက်

(ခ) စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ ဘနသ်ာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အား Owner ဟုလည်းကောင်း၊ KMOT Co., Ltd အား Contractor ဟုလည်း ကောင်း ရည်ညွှန်းမည်ဟု ဖော်ပြထားပြီးဖြစ်သောကြောင့် Who grants Permit, Who is granted permit ဆိုသောစကားရပ်တို့ ထည့်သွင်းဖော်ပြ ရန်မလိုအပ်တော့ပါ။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ၌ အဆိုပါစကားရပ်များအား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၌ ရည်ရွယ်ချက်အပိုဒ်မပါရှိ၍ စာချုပ်ဝင်စာပိုဒ်အောက်တွင် ရည်ရွယ်ချက်ဟူသော ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ၊ အပိုဒ်ခွဲ 1.1 ၌ မြေပုံအား နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟုလည်းကောင်း၊ အပိုဒ်ခွဲ 4.4 ၌ detail project plan အား နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟုလည်းကောင်း ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၌ အဆိုပါနောက်ဆက်တွဲ များ ပူးတွဲပါရှိလာခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ နောက်ဆက်တွဲများ သည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သောကြောင့် စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက် တွဲများပြည့်စုံစွာ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် မြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနက တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါ သည်၊

(င) စာချုပ်(မူကြမ်း)၌ B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်မည့်တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြ သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 3 Warranty and Representation တွင် ဖော်ပြ ထားချက်များနှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသည့်

အတိုင်း မင်္ဂနီဖြင့် ဖြည့်စွက်ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်
နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် 4 Define Land Lease Period, Define Contract Validate and Contract Extension ၊ အပိုဒ်ခွဲ 4.2 ၌ စာချုပ် သက်တမ်းနှင့် မြေငှားရမ်းခြင်းကာလတို့ကို ရောထွေးစွာဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ စာချုပ်သက်တမ်းသည် မည်သည့်နေ့ရက်မှစတင်ကြောင်း နှင့် နှစ်ပေါင်းမည်မျှဖြစ်ကြောင်း၊ စာချုပ်သက်တမ်းအား တစ်ကြိမ်လျှင် နှစ်မည်မျှဖြင့် အကြိမ်ရေမည်မျှအထိ တိုးမြှင့်နိုင်ကြောင်း၊ စာချုပ်သက်တမ်း တိုးမြှင့်ရာ၌ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အချိန်ကာလမည်မျှ ကြိုတင်၍တင်ပြရမည်ဖြစ်ကြောင်းနှင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ၏သဘောတူညီမှုရရှိမှသာ စာချုပ်သက်တမ်းတိုးမြှင့်နိုင်ကြောင်း စသည်ဖြင့် စာချုပ်သက်တမ်းအား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန်ဖြစ်ပါသည်။ ထို့အတူ မြေငှားရမ်းခြင်းကာလကိုလည်း စာချုပ်သက်တမ်းကဲ့သို့ ဖော်ပြရန်ဖြစ်ပါသည် စာချုပ်သက်တမ်းနှင့်မြေငှားရမ်းခြင်းကာလတို့ ကိုက်ညီရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် 4 ၊ အပိုဒ်ခွဲ 4-2 ၏ နောက်ဆုံးဝါကျ၌ ဖော်ပြထား သော "----------, it has right to requisition for approval of tw additional 10 (ten) year terms extentions." ဆိုသောအချက်မှ ရှင်းလင်းမှုမရှိသဖြင့် ရှင်းလင်းစွာ ဖော်ပြရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် 5 Payment of Land Use Premium an Annual Rent ၊ အပိုဒ်ခွဲ 5.1 ၌ ဖော်ပြပါရှိသည့် မြေငှားဧရိယာအတွက် မြေအသုံးချမှုအာမခံကြေး အမေရိကန်ဒေါ်လာ(၂၉,၇၀၀) သည် စာချုပ် လုပ်ငန်းအတွက် သင့်လျော်သည့်ပမာဏဖြစ် မဖြစ် ဌာနမှပြန်လည်စိစစ် ဖြစ်ပါသည်။ ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှုအာမခံကြေ

ကို အငှားချထားသူသို့ပေးသွင်းရန် ဖော်ပြထားရာ ထိုသို့ပေးသွင်းခြင်း မပြုပါက မည်သို့ဆောင်ရွက် မည်ဆိုသည့် စည်းကမ်းချက်ကို ထည့်သွင်း ဖော်ပြသင့်ပါသည်။ ကို့ပြင် ဘဏ်စာရင်းနံပါတ်အား ကွက်လပ်ဖြင့်ဖော်ပြ ထားရာ စာချုပ်ချုပ်ဆိုချိန်တွင် ဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5.2 ၌ တစ်နှစ်စာငှားရမ်းခအဖြစ် အမေရိကန် ဒေါ်လာဖြင့် (10756) ပေးသွင်းရန်သဘောတူကြောင်း ဖော်ပြထားရာ စာချုပ်ပါ မြေဧကများအတွက် သင့်လျော်သည့် ငှားရမ်းခဖြစ် မဖြစ် ဌာနမှပြန်လည် စိစစ်ရန်ဖြစ်ပါသည်။ အပိုဒ်ခွဲ ၅-၆ တွင် မြေငှားရမ်းခ ပေးသွင်းမှုနောက်ကျ ပါ က နောက်ကျကြေးအဖြစ် တစ်ရက်လျှင် အမေရိကန်ဒေါ်လာ ၅၀ ပေးရ ဖော်ပြရာ စာချုပ်ပါလုပ်ငန်းအတွက် သင့်လျော်သည့်ပမာဏဖြစ် မဖြစ် ဌာန ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5-2 ၊ 5-3 နှင့် 5-4 တို့၌ နှစ်စဉ်ငှားရမ်းခအား အမေ ရိကန်ဒေါ်လာဖြင့် ပေးချေရန်ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း) အပိုဒ် 5-7 ၌ နှစ်စဉ်ငှားရမ်းခကို အမေရိကန်ဒေါ်လာအစား ငွေလဲလှယ်မှုဈေး နှုန်းအတိုင်း မြန်မာကျပ်ငွေဖြင့်လည်း ပေးချေရန် နှစ်ဖက်သဘောတူကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့ မြေငှားရမ်းခကို အမေရိကန် ဒေါ်လာဖြင့် တွက်ချက်ထားပြီးနောက် မြန်မာကျပ်ငွေဖြင့်လည်း ပေးချေနိုင် ကြောင်း ဖော်ပြချက်နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆော ရွက်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5-4 နှင့် 1-3 တို့၌ ဟိုတယ်တရားဝင်ဖွင့်လှစ်သည့် နေ့ဟု ဖော်ပြပြီး အပိုဒ်ခွဲ 5-8 ၊ အပိုဒ်ခွဲ 9-1 နှင့် အပိုဒ်ခွဲ 9-2 တို့၌ ဟိုတယ် လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်ရက်နေ့ဟု ဖော်ပြထား သဖြင့် အခိပ္ပါယ်ဖွင့်ဆိုချက်မှာ official opening ဟုဖော်ပြထား

လျှို့ဝှက်

ကရားဝင်ဖွင့်လှစ်သည့်နေ့နှင့် စပေါင်ဖွင့်လှစ်သည့်နေ့တို့သည် တစ်ရက်တ

ဖြစ် မဖြစ် ရှင်းလင်းမှုမရှိပါ။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့အ

အပိုဒ်ခွဲ ၅-၈ နှင့် 7-3 တို့၌ ဖော်ပြထားသော "specified period." သ

မည်သည့်အချိန်ကာလကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ ။ construc

period ကိုဆိုလိုခြင်းဖြစ်ပါက specified period အစား construc

period ဟုရေးသားသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ပြီး ရှင်းလင်

ဖော်ပြရန်လိုအပ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 6 Construction Period ၊ အပိုဒ်ခွဲ 6-1 ၌ ရေး

ဖော်ပြချက်မှာ မည်သည်ကိုဆိုလိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိသ

ရှင်းလင်းစွာဖော်ပြရန်ဖြစ်ပါသည်။ ထို့အပြင် သတ်မှတ်ထားသော တည်ဆေ

ရေးကာလအတွင်း တည်ဆောက်မှုကာလမပြီးစီးပါက မည်သို့ဆောင်

မည်ဆိုသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် 8 Contractor' s Responsibilities ၊ အပိုဒ်ခွဲ 8

"အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ----------- လုပ်ကိုင်ဆောင်ရွက်ခြင်

ရ။" ဟုဖော်ပြပြီး ၎င်းစာကြောင်း၏ နောက် တွင် "(သို့မဟုတ်) အငှားချထ

ထံမှ ------------- ကြိုတင်ခွင့်ပြုချက်-------ဆောင်ရွက်ရမည် ( or get

written approved by Owner)"ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါ

စည်းကမ်းချက်နှစ်ရပ်မှာ ရှေ့နောက်ညီညွတ်မှုမရှိ၍ "or get prior w

approved by Owner" ဟူသော စည်းကမ်းချက်အား ထည့်သွင်းရန်မ

သဘောရရှိပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8-4 ၌ Contractor (ကုမ္ပဏီ)သည် ငှားရမ်း

အတွင်း အဆောက်အအုံများတိုးချဲ့ရန်၊ အရံထားမြေကို အသုံးပြု

ဆောင်ရွက်မှုများပြောင်းလဲရန် ဆန္ဒရှိပါက Owner (ဌာန)သို့ စီမံချက်

လျှို့ဝှက်

တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ဌာနသို့ ကြိုတင်တင်ပြရမည့်ကာလ
သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာန၏ ခွင့်ပြုချက်ရရှိမှသာဆောင်ရွက်ရမ
ဟု ထည့်သွင်းရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8-6 ၌ Contractor (ကုမ္ပဏီ)သည် ရင်းနှီးမြှုပ်
တိုးချဲ့ခြင်း၊ ရင်းနှီးမြှုပ်နှံခြင်း၊ ချေးငွေရယူခြင်းများအတွက် Owner (ဌာန)
နို့တစ်စာပေးမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ နို့တစ်စာကြိုတင်ပေ
ရမည့်ကာလကို ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြ
အဆိုပါအချက်၌ "Owner (ဌာန) သို့ နို့တစ်စာပေးပြီး ဌာန၏အတည်
ချက်ရရှိမှသာ ဆောင်ရွက်ရမည်" ဆိုသောအချက်အား ထည့်သွင်းဖော်ပြ
သည်ဟု ယူဆပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် 9 Operation and Management ၊ အပိုဒ်ခွဲ 9-
အဆောက်အဦပုံစံပြောင်းလဲခြင်း၊ အပန်းဖြေရိပ်သာနှင့် ဟိုတယ်တည်ဆော
ခြင်းများ တိုးချဲ့သည့်ကိစ္စရပ်၌ တိုးချဲ့သည့်အစိတ်အပိုင်းများ၊ ပစ္စည်း
ယာများကို တွက်ချက်၍ Owner (ဌာန)နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်
ကော်မရှင်ထံသို့ တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ယင်းစည်းကမ်းချ
Owner (ဌာန)နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ တင်ပြ
အတည်ပြုချက်များရရှိမှသာ ဆောင်ရွက်ရမည်ဟု ဖော်ပြသင့်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 10 Force Majeure ၊ အပိုဒ်ခွဲ 10-2 နှင့် 10-3
ဖော်ပြထားချက်များသည် အရေးအသားပြေပြစ်မှုမရှိခြင်းကြောင့် အလာ
စာချုပ်များတွင် အသုံးပြုလေ့ရှိသော စည်းကမ်းချက်အား Slip ကပ်ပေး
ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါ သ

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် 13 Transfer of the Land and Building
အပိုဒ်ခွဲ 13-1 ၌ ငှားရမ်းမြေကို ပြန်လည်လွှဲပြောင်းပေးရာ၌ ကောင်းမွန်

လျှို့ဝှက်

အနေအထားဖြင့် ငှားရမ်းကာလကုန်ဆုံးပြီးနောက် ရက်ပေါင်း (၃၀)အတွင်
လွှဲပြောင်းပေးရမည်ဟု ဖော်ပြထားပါသည်။ B.O.T စနစ်အရ အဖိုးစားနာ
တစ်စုံတစ်ရာမပါဘဲ ပြန်လည်လွှဲပြောင်းလေ့ရှိပါသည်။ သို့ပါ၍ အဆို
စည်းကမ်းချက်၌ "without any consideration" ဟူသော စာသားအ
မင်နီဖြင့်ဖြည့်စွက်ပေးလိုက်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 13-2 ၌ ငှားရမ်းကာလကုန်ဆုံးသည့်အခါ သို့မဟု
စာချုပ်ရပ်စဲသည့်အခါ ပစ္စည်းကိရိယာများအပါအဝင် တပ်ဆင်ထားသေ
ပစ္စည်းများကို တစ်စုံတစ်ရာပေးချေမှုမရှိဘဲ လွှဲပြောင်းပေးရမည်ဟု ဖော်
ထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်၌ ငှားရမ်းကာ
သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးပြီး ရက်ပေါင်းမည်မျှအတွင်း ပြန်လ
လွှဲပြောင်းပေးရမည်၊ သို့မဟုတ် စာချုပ်ရပ်စဲပြီးရက်ပေါင်းမည်မျှအတွ
ပြန်လည်လွှဲပြောင်းပေးရမည်ဆိုသောအချက်မပါရှိ၍ ထည့်သွင်းဖော်ပြ
လိုအပ်ပါသည်။ ပြန်လည်လွှဲပြောင်းပေးရာ၌ မြေနှင့် အဆောက်အဦများ
တစ်ပြိုင်နက်တည်းပြန်လည်လွှဲပြောင်းသင့်သည်ဟု သဘောရရှိပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ် 14 Right of Re-entry to the Land a
Buildings နှင့်စပ်လျဉ်း၍ အလားတူ B.O.T စာချုပ်များတွင် ဖော်ပြ
သောစည်းကမ်းချက်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချ
နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်တစ်ခုဖြစ်သော အရေးကြီးသည့်စ
ကမ်းချက်လည်းဖြစ်သော စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မပါ
ဖော်ပြရန်လိုအပ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်များဖြစ်သော Governing Law
Renegatiation တို့မပါရှိ၍ Slip ကပ်ပေးလိုက်ပါသည်၊

လျို့ဝှက်

(ဘ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်တစ်ခုဖြစ်သော စာချုပ်ရပ်စဲခြင်း
စည်းကမ်းချက်မပါရှိ၍ စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းပြီး ဖော်ပြရန်ဖြစ်ပါသည်၊

(မ) စာချုပ်(မူကြမ်း)၌ လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Ban
Guarantee) ရယူရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(ယ) Lease Agreement (မူကြမ်း) အပိုဒ်ခွဲ 13-1(f) ၌ BOT Contract ရပ်စဲ
ပါ က Lease Agreement သည် BOT Contract ၏ တစ်စိတ်တစ်ဒေ
ဖြစ်သောကြောင့် Lease Agreement သည်အလိုအလျောက်ရပ်စဲမည်
သောအချက်အား ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သို့သော် ယခု BO
Contract (မူကြမ်း)၌ Lease Agreement သည် BOT Contract
တစ်စိတ်တစ်ဒေသဖြစ်သည်ဆိုသောအချက်အား ဖော်ပြထားခြင်းမရှိ၍ ဖော်
ရန်လိုအပ်ပါသည်၊

(ရ) စာချုပ်(မူကြမ်း)၌ ပူးတွဲထားသော နောက်ဆက်တွဲများသည် ဤစာချုပ်
တစ်စိတ်တစ်ဒေသများအဖြစ် မှတ်ယူရမည်ဆိုသောအချက်အား မင်နီ
ရေးသားပေးလိုက်ပါသည်၊

(လ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၅။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပေးပို့လာသော အင်္ဂလိပ်ဘာသာဖြင့် ပြုစုထား သ
မြေငှားရမ်းခြင်းသဘောတူစာချုပ် (Lease Agreement) (မူကြမ်း)အား ဥပဒေရှုထော
လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ရည်ညွှန်းချက်(၁)ပါစာ၌ ဖော်ပြချက်အရ KMOT Co.,Ltd သည် မြ
ကုမ္ပဏီဖြစ်သော KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation C
Ltd တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်သည်ဆို
အချက်အား စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ ထည့်သွင်းဖော်ပြရန် လို
ပါသည်၊

(ခ) စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အာ Owner ဟုလည်းကောင်း၊ KMOT Co., Ltd အား Contractor ဟုလည် ကောင်း ရည်ညွှန်းမည်ဟု ဖော်ပြထားပြီးဖြစ်သောကြောင့် Who gran Permit, Who is granted permit ဆိုသောစကားရပ်တို့ ထည့်သွင်းဖော် ရန်မလိုအပ်တော့ပါ။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ အဆိုပါစကားရပ်များအား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၌ ရည်ရွယ်ချက်အပိုဒ်မပါရှိ၍ စာချုပ်ဝင်စာပိုဒ်အောက်တွ ရည်ရွယ်ချက်ဟူသော ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ၊ အပိုဒ်ခွဲ 1.1 ၌ မြေပုံအ နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟု ဖော်ပြထားပါသည်။ သို့သော် စာချ (မူကြမ်း)၌ အဆိုပါနောက်ဆက်တွဲ ပူးတွဲပါရှိလာခြင်းမရှိကြောင်း တွေ့ရှ ပါသည်။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေဖြစ်သေ ကြောင့် စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက်တွဲများပြည့်စုံစွာ ပူးတွဲဖော်ပြ လိုအပ်ပါသည်။ ထို့အပြင် မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါ သည်၊

(င) စာချုပ်(မူကြမ်း)၌ ငှားရမ်းမည့်မြေ၏တည်နေရာ၊ အကျယ်အဝန်း၊ လိပ် အပြည့်အစုံတို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 2 Warranty and Representation တွင် ဖော ထားချက်များနှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသ အတိုင်း မင်နီဖြင့် ဖြည့်စွက်ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ခ နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် 3 Define Land Lease Period a Development ၊ အပိုဒ်ခွဲ 3-2 ၌ မြေငှားရမ်းခြင်းကာလသက်တမ်းတိုး

လို့ဝှက်

ခြင်းကို ဖော်ပြထားချက်မှာ ရှင်းလင်းမှုမရှိပါ။ ရှင်းလင်းစွာ ဖော်ပြ
လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် 4 Payment of Land Use Premium a
Annual Rent ၊ အပိုဒ်ခွဲ 4-1 ၌ မြေငှားဧရိယာအတွက် မြေအသုံးချမှုအာ
ကြေးအမေရိကန်ဒေါ်လာ (၂၉,၇၀၀) ပေးသွင်းခြင်းနှင့်စပ်လျဉ်း၍ အထ
အပိုဒ် ၄(ဈ)ပါ အကြံပြုချက်ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-2 ၌ တစ်နှစ်စာငှားရမ်းခအဖြစ် အမေရိ
ဒေါ်လာငွေဖြင့် (10756) ပေးသွင်းရန်သဘောတူကြောင်း ဖော်ပြထားခြင်း
စပ်လျဉ်း၍ အထက်အပိုဒ် ၄(ည)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-4 ၌ နှစ်စဉ်ငှားရမ်းခအား အမေ ရိကန်ဒေါ်လာ
ပေးချေရန်ဖော်ပြထားပြီး စာချုပ်(မူကြမ်း) အပိုဒ် 5-7 ၌ နှစ်စဉ်ငှားရမ်း
အမေရိကန်ဒေါ်လာအစား ငွေလဲလှယ်မှုဈေးနှုန်းအတိုင်း မြန်မာကျပ်ငွေ
လည်းပေးချေရန် နှစ်ဖက်သဘောတူကြောင်း ဖော်ပြထားသည်ကို တွေ့ရှိ
သည်။ ထိုသို့ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဋ
အတိုင်း အကြံပြုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-4 နှင့် 1-3 တို့၌ ဟိုတယ်တရားဝင်ဖွင့်လှစ်သ
နေ့ဟု ဖော်ပြပြီး အပိုဒ်ခွဲ 4-8 ၊ အပိုဒ်ခွဲ 8-1 နှင့် အပိုဒ်ခွဲ 8-2 တို့၌ ဟိုတ
လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်ရက်နေ့ဟု ဖော်ပြထာ
ထိုသို့ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဌ)ပါအတိုင်း အ
ပြုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် 5 Construction Period ၊ အပိုဒ်ခွဲ 5-1 ၌ ရေး
ဖော်ပြချက်မှာ မည်သည်ကိုဆိုလိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိသ
ရှင်းလင်းစွာဖော်ပြရန်ဖြစ်ပါသည်။ ထို့အပြင် သတ်မှတ်ထားသော တည်ဆော

ရေးကာလအတွင်း တည်ဆောက်ရေးကာလမပြီးစီးပါက မည်သို့ဆောင်ရွ
မည် ဆိုသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း) အပိုဒ် 7 Contractor' s Responsibilities ၊ အပိုဒ်ခွဲ 7-3
"အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ----------- လုပ်ကိုင်ဆောင်ရွက်ခြင်းမ
ရ။" ဟုဖော်ပြပြီး ၎င်းစာကြောင်း၏ နောက် တွင် "(သို့မဟုတ်) အငှားချထား
ထံမှ ------------ ကြိုတင်ခွင့်ပြုချက်-------ဆောင်ရွက်ရမည် (or get pri
written approved by Owner.)" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသ
ထိုသို့ဖော်ပြထားချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဗ)ပါအတိုင်း အကြံ
အပ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7-4 ၌ Contractor (ကုမ္ပဏီ)သည် ငှားရမ်းကာ
အတွင်း အဆောက်အအုံများတိုးချဲ့ရန်၊ အရံထားမြေကို အသုံးပြုရန်
ဆောင်ရွက်မှုများပြောင်းလဲရန် ဆန္ဒရှိပါက Owner (ဌာန)သို့ ကြိုတင်
ချက်ကြိုတင်တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ထိုသို့ဖော်ပြထားချက်
စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဏ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7-6 ၌ Contractor (ကုမ္ပဏီ)သည် ရင်းနှီးမြှုပ်
တိုးချဲ့ခြင်း၊ ရင်းနှီးမြှုပ်နှံခြင်း၊ ချေးငွေရယူခြင်းများအတွက် Owner (ဌာန
နှင့်တစ်စာပေးမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ ထိုသို့ဖော်ပြထားချက်
စပ်လျဉ်း၍ အထက်အပိုဒ် ၄(တ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် 9 Force Majeure ၊ အပိုဒ်ခွဲ 9-2 နှင့် 9-3
ဖော်ပြထားချက်များသည် အရေးအသားပြေပြစ်မှုမရှိခြင်းကြောင့် အလာ
စာချုပ်များတွင် အသုံးပြုလေ့ရှိသော စည်းကမ်းချက်အား Slip ကပ်ပေး
ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါ

လှည့်ရန်

(ထ) စာချုပ်(မူကြမ်း) အပိုဒ် 13 Termination of the Contract ၊ အပိုဒ်ခွဲ 13-1
၌ Lease Agreement သည် B.O.T Contarct ၏ တစ်စိတ်တစ်ဒေသ
သောကြောင့် B.O.T Contarct ရပ်စဲခဲ့ပါက Lease Agreement သည်လ
အလိုအလျောက်ရပ်စဲမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသ
Lease Agreement သည် B.O.T Contarct ၏ တစ်စိတ်တစ်ဒေသဖြစ်သ
ဆိုသောအချက်အား B.O.T Contarct ၌ ဖော်ပြထားခြင်းမရှိသဖြင့် ဖော်ပြ
လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 15 Right of Re-entry to the Land and Buildi
နှင့်စပ်လျဉ်း၍ အလားတူမြေငှားစာချုပ်များတွင် ဖော်ပြလေ့ရှိသောစည်းက
ချက်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ည
မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)၌ စာချုပ်တစ်ခု၌ အရေးကြီးသောဥပဒေရေးရာ စည်းက
ချက် ၂ ခုဖြစ်သည့် စာချုပ်သက်တမ်းနှင့် စာချုပ်စတင်အကျိုးသက်ရေ
သည့်နေ့တို့မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းနှင့် စပ်လ
၍ အထက်အပိုဒ် ၄(ဆ)ပါအကြံပြုချက်ပါအတိုင်း ထပ်မံအကြံပြု အပ်ပါသ

(န) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစည်းကမ်းချက်များဖြစ်သော Govern
Law နှင့် Renegotiation တို့သည်လည်းကောင်း၊ မြေငှားစာချုပ်များ
ဖော်ပြလေ့ရှိသော Retransfer of the Land စာပိုဒ်သည်လည်းကေ
မပါရှိ၍ Slip ကပ်ပေးလိုက်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)၏ မျက်နှာဖုံးနှင့်ခေါင်းစီးတို့၌ Lease Agreement
ဖော်ပြထားပါသည်။ မြေတစ်ခုတည်းကိုသာ ငှားရမ်းခြင်းဖြစ်ပါက L
Lease Agreement ဟုဖော်ပြသင့်ပါသည်။ စာချုပ်(မူကြမ်း)၏ မျက်န
နှင့် ခေါင်းစီးတို့၌ Lease Agreement ဟု ဖော်ပြထားသော်လည်း စာ

(မူကြမ်း)ပါ စည်းကမ်းချက်များ၌ Contarct ဟု ရည်ညွှန်းသုံးနှုံးထာ

အသုံးအနှုန်းတစ်ပြေးညီစေရန်အတွက် ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)၌ ငှားရမ်းသည့်မြေ၏ မြေခွန်ကိုလည်းကောင်း၊ သက်ဆိုင်

အခွန်အခများကိုလည်းကောင်း မည်သူကပေးဆောင်မည်ဖြစ်ကြောင်း ဖေ

ထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဗ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မပ

သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံ

ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

(ဘ) စာချုပ်(မူကြမ်း)များ၌ ရေးသားပြုစုထားသော အင်္ဂလိပ်စာအရေးအသ

များသည် ပြေပြစ်မှုမရှိခြင်း၊ ရှင်းလင်းမှုမရှိခြင်း၊ စီးပွားရေးစာချုပ်စာ

များ၌ သုံးနှုံးဖော်ပြလေ့ရှိသော ဥပဒေရေးရာအသုံးအနှုန်းများမဟုတ်ခြင်

ကြောင့် အင်္ဂလိပ်စာအရေးအသားပြေပြစ်မှုရှိစေရေး၊ ရှင်းလင်းမှုရှိစေရေ

ဥပဒေရေးရာအသုံးအနှုန်းများ သုံးနှုံးဖော်ပြရေးတို့အတွက် ဌာနက တာဝ

စိစစ်ရန်လိုအပ်ပါသည်၊

(မ) လိုအပ်သောနေရာ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၆။ B.O.T Contarct (မူကြမ်း)နှင့် Lease Agreement (မူကြမ်း)တို့၌ အပန်းဖြေစ
နှင့် ဟိုတယ်လုပ်ငန်းများဆောင်ရွက်မည်ဟု ဖော်ပြထားရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှ
၁၄-၈-၂၀၁၄ ရက်စွဲဖြင့် ထုတ်ပြန်ကြေညာခဲ့သော အမိန့်ကြော်ငြာစာအမှတ်၊ ၅၀/ ၂၀၁၄ "ပတ်
ကျင်ထိခိုက်မှုဆန်းစစ်ချက်ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်းအမျိုးအစားများသတ်မှတ်ခြင်
အမှတ်စဉ် - ၂၀ ၌ "အကြီးစားဟိုတယ်နှင့်ခရီးသွားအပန်းဖြေနေရာများ၊ အပန်းဖြေစခန်း
တည်ဆောက်ခြင်း" အား ဖော်ပြထားသည်ကို သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း) ၂ ရပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြေ
အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေ

…ဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စ… …ပိုင်းဆိုင်ရာ…စဝ်လျှင်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်…

KMOT Co., Ltd သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟ… မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံ… မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မပ… စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၉။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်… အတွက် ဤရုံးသို့ မိတ္တူ(၂)စုံစီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

လျှို့ဝှက်

# တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့

နှင့်

# K M OT Company.,Ltd.

တို့အကြား ချုပ်ဆိုသော

## မြေငှားရမ်းခြင်းဆိုင်ရာ (Lease Agreement)

သဘောတူစာချုပ် (မူကြမ်း)

ရက်စွဲ ။ ၂၀၁၆ ခုနှစ်၊ လ (     ) ရက်

# “ မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် ”

# Lease Agreement

## တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့

## နှင့်

## K M OT Company.,Ltd.

## တို့အကြား

## ချုပ်ဆိုသော မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

## မာတိကာ

# “ မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် ”

# Lease Agreement

## တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့

## နှင့်

## K M OT Company.,Ltd.

## တို့အကြား

## ချုပ်ဆိုသော မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

ဤမြေငှားရမ်းခြင်းသဘောတူ စာချုပ်ကို ၂၀ ခုနှစ်၊ လ ( ) ရ နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့တွင်

ဦးခိုင်ထွန်းဦး၊ မှတ်ပုံတင်အမှတ် ၉/မမန(နိုင်) ၀၁၃၂၁၀၊ အတွင်းရေးမှူး၊ တနင်္သာရီတို ဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့(နောင်တွင် **“လုပ်ကိုင်ခွင့်ပြုသူ”**ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကာ ရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်)

ကတစ်ဖက်

ဦးကြင်စိန်၊ နိုင်ငံသားစိစစ်ရေးအမှတ် ၁၂/လသန(နိုင်) ၀၀၃၉၅၈၊ မန်နေဂျင်းဒါရိုက်တ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ တပင်ရွှေထီးလမ်းနှင့် ညောင်တုန်းလမ်းထော တပင်ရွှေထီးတာဝါ၊ မြေညီထပ်၊ အမှတ် **(G-3)**တွင် ဖွင့်လှစ်ထားသော **KMOT Company.,L** (ယင်းကုမ္ပဏီသည် မြန်မာနိုင်ငံသားပိုင် **KNL Development Co.Ltd** နှင့် ထိုင်းနိုင်ငံ **Infinite Creatio** **Co.Ltd** တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ဖက်စပ်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။) ကိုယ်စားပြုသေ (နောင်တွင် **“လုပ်ကိုင်ခွင့်ရသူ”** ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝ ကိုယ်စားလှယ်များ၊ ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)

ကတစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်းကျေးရွ အုပ်စုအတွင်းရှိ လှိုဏ်ဂူကျွန်းအား မြေအကျယ်အဝန်းဧရိယာ (၁၅၈)ဧကခန့်ရှိ ကျွန်းပေါ်တွ အပန်းဖြေစခန်း၊ ဟိုတယ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘော စာချုပ်ကို ချုပ်ဆိုကြပါသည်။

၁။ **ရည်ရွယ်ချက်**

၁. ၁ မြန်မာ့ပင်လယ်ပြင်သဘာဝအရင်းအမြစ်များနှင့် ကျွန်းများ၏ ဂေဟစနစ်များ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ရန် ၊ ဒေသအတွင်း Eco Tourism လုပ်ငန်းများ ဖွံ့ဖြိုးတိုးတ လာစေရန် ၊ ဟိုတယ်နှင့်အပန်းဖြေလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာစေရန် ၊ ၎င်းနှင့်ဆက်စပ်သေ လုပ်ငန်းများ တည်ဆောက်လုပ်ကိုင်သွားရန်၊ ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလ များပေါ်ပေါက်လာပြီး ဝင်ငွေပိုမိုတိုးတက်ရရှိစေရန်နှင့် နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စည်ပင်စေ ရည်ရွယ်ပါသည်။

၂။ **အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၂. ၁ သဘောတူစာချုပ်ဆိုသည်မှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရို ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုအတွင်းရှိ လိုဏ်ဂူကျွန်း၊ မြေအကျယ်အဝ (၁၅၈)ဧကခန့်ရှိ မြေပုံညွှန်း 1097/15, LM, A - 905449, LM, B - 903437, LM, C - 90143 မြေပုံညွှန်း 1098/03, LM, D - 907427, LM, E - 906450, မြေနေရာပေါ်တွင် အပန်းဖြေခ ဟိုတယ်လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်သွားမည့် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘေ တူစာချုပ်ကို ဆိုလိုသည်။ (မြေပုံကို နောက်ဆက်တွဲဖြင့် ဤစာချုပ်တွင် ပူးတွဲထားပါသည်။)

၂. ၂ **ဘဏ္ဍာရေးနှစ်**

ဘဏ္ဍာရေးနှစ်ဆိုသည်မှာ နှစ်တစ်နှစ်၏ ဧပြီလ (၁) ရက်နေ့မှ နောင်နှစ် မတ် (၃၁) ရက်နေ့အထိ (၁၂) လတာကာလကို ဆိုလိုသည်။

၂. ၃ **အပန်းဖြေစခန်း၊ ဟိုတယ်၊ တရားဝင်ဖွင့်လှစ်သည့်နေ့**

အပန်းဖြေစခန်း၊ ဟိုတယ်တရားဝင်ဖွင့်လှစ်သည့်နေ့ဆိုသည်မှာ ဟိုတယ်အဆော အဦများ ဆောက်လုပ်ပြီးစီး၍ လုပ်ငန်းများစတင်လည်ပတ်ပြီး၊ ဝန်ဆောင်မှုလုပ်ငန်းများ စတင်လက် ဆောင်ရွက်သည့်နေ့ကို ဆိုလိုသည်။

၂. ၄ **အသုံးပြုနိုင်သောမြေ**

အသုံးပြုနိုင်သောမြေဆိုသည်မှာ အပန်းဖြေစခန်း ဟိုတယ်လုပ်ငန်းနှင့် ဆက်စပ်လုပ်င များ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော မြေနေရာကို ဆိုလိုသည်။

၂. ၅ **ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက်မှု**

ဤလုပ်ငန်းအတွက် ဆောင်ရွက်သည့် ဟိုတယ်လုပ်ငန်းဝင်ငွေအခြေခံတွက်ချက် ဆိုသည်မှာ ဟိုတယ်အခန်းတစ်ခန်း၏တစ်ရက်ငှားရမ်းခနှုန်းကို ဟိုတယ်ရှိ အခန်းအရေအတွက်နှ မြှောက်၍ ရရှိလာသော တစ်နေ့ဝင်ငွေကို တစ်နှစ်စာတွက်ချက်ပြီး ယင်းတစ်နှစ်ဝင်ငွေ၏ ၃၅ ပေါ်တွင် အခြေခံ၍ တွက်ချက်ရယူထားသော နှုန်းထားကိုဆိုလိုသည်။

၃။ **အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၃. ၁ လုပ်ကိုင်ခွင့်ပြုသူသည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်အတွင်းရှိ ယ ဤသဘောတူစာချုပ်ကို ချုပ်ဆိုသော လိုဏ်ဂူကျွန်းဧရိယာတစ်ခုလုံးကို တရားဝင်စီမံခန့်ခွဲပိုင်ခွင့် သော အာဏာပိုင်အဖွဲ့အစည်းဖြစ်သည်။

၃. ၂ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်ပါ အရပ်ဒေသရှိ ဖော်ပြပါ ကျွန်းဧရိယ
တစ်ခုလုံးကို လုပ်ကိုင်ခွင့်ရသူသို့ နှစ်ရှည်ငှားရမ်းရန်နှင့် ဟိုတယ်လုပ်ငန်းများ လုပ်ကိုင်ဆောင် ရွက်
လုပ်ကိုင်ခွင့် ပေးခွင့်ရှိသူ ဖြစ်သည်။

၃. ၃ လုပ်ကိုင်ခွင့်ရသူသည် အထက်ဖော်ပြပါ အရပ် ဒေသတွင် အပန်းဖြေစခန်း၊ ဟိုတ
လုပ်ငန်းများလုပ်ဆောင်ရန်၊ အဆောက်အဦများဆောက်လုပ်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်
လုပ်ကိုင်နိုင်စွမ်းရှိသည့် အတတ်ပညာရှင်၊ အသိပညာရှင်များ အပြည့်အဝရှိကြောင်း အာမခံသ

၃. ၄ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးသူများသည် လုပ်ငန်းတာဝန်အရ ဤ
ချုပ်ကို လက်မှတ်ရေးထိုးပိုင်ခွင့်အာဏာရှိသူများ ဖြစ်ကြသည်။

## ၄။ မြေငှားရမ်းကာလသတ်မှတ်ခြင်း

၄. ၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်၊ အပိုဒ် ၂. ၁ ပါ မြေဧရိယာစုစုပေ
(၁၅၈)ဧကခန့်ကို လုပ်ကိုင်ခွင့်ရသူသို့ နှစ်ရှည် ငှားရမ်း၍ ၎င်းမြေပေါ်တွင် အပန်းဖြေစခ
ဟိုတယ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူညီသည်။ ငှားရမ်းသည့်ကာလမှာ ဤသဘေ
တူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှစ်ပေါင်း (၅၀) သတ်မှတ်သည်။

## ၅။ စာချုပ်သက်တမ်းသတ်မှတ်ခြင်း

၅. ၁ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူသို့ ဤသဘောတူစာချုပ် လက်မှတ်ရေး
သည့်နေ့မှစ၍ လှိုဏ်ဂူကျွန်းပေါ်ရှိမြေဧရိယာ (၁၅၈)ဧကကို နှစ်ပေါင်း (၅၀) ငှားရမ်းအသုံးပြု
ပြုသည်။ သို့ဖြစ်၍ ဤစာချုပ်သက်တမ်းကို နှစ်ပေါင်း (၅၀) သတ်မှတ်သည်။

## ၆။ စာချုပ်သက်တမ်းတိုးခြင်း

၆. ၁ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်သက်တမ်းပြည့်သည့်အခါ ဆက်လက်ငှားရ
လုပ်ကိုင်လိုပါက နောက်ထပ် တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်ငှားရမ်းသုံးစွဲခွင့်
ရန် တင်ပြဆောင်ရွက်ခွင့်ရှိသည်။

၆. ၂ လုပ်ကိုင်ခွင့်ရသူသည် သက်တမ်းပြည့်ပြီးနောက် ဆက်လက်ငှားရမ်းလုပ်ကိုင်လိုပါ
သက်တမ်းမစေ့ရောက်မီ အနည်းဆုံး (၆) လ ကြိုတင်၍ လုပ်ကိုင်ခွင့်ပြုသူထံ စာဖြင့် ရေးသ
လျှောက်ထားရမည်။ လုပ်ကိုင်ခွင့်ပြုသူ (တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့) က ဆုံးဖြတ်သ
အတိုင်း လုပ်ကိုင်ခွင့်ရသူက လိုက်နာဆောင်ရွက်ရန်ဖြစ်သည်။

## ၇။ မြေအသုံးချမှု အာမခံကြေးပေးသွင်းခြင်း၊ မြေငှားရမ်းခပေးသွင်းခြင်း

၇. ၁ လုပ်ကိုင်ခွင့်ရသူသည် လှိုဏ်ဂူကျွန်း မြေဧရိယာ (၁၅၈)ဧကအတွက် မြေအသုံးချ
အာမခံကြေးအဖြစ် အောက်ပါအတိုင်း ခွဲခြားသတ်မှတ်ပြီး ဤစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ
လုပ်ကိုင်ခွင့်ပြုသူ၏ ငွေစာရင်းခေါင်းစဉ် အမှတ် ------------------- ဖြင့် ဘဏ်သို့ ပေးသွင်းရမည

(က) အသုံးပြုနိုင်သောမြေ - ၄၇၄၀၀ အမေရိကန်ဒေါ်လ
(၁၅၈ဧက×အမေရိကန်ဒေါ်လာ ၃၀၀)

**စုစုပေါင်း - ၄၇၄၀၀ အမေရိကန်ဒေါ်လ**

၇. ၂ မြေအသုံးချမှုအာမခံကြေးအဖြစ် အမေရိကန်ဒေါ်လာ (၄၇၄၀၀) ပေးသွင်းရာ၀ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပထမအရစ်အဖြစ် အမေရိကန်ဒေါ်လာ (၂၀၀၀၀)အားလ ကောင်း၊ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းစတင်သည့်ကာလတွင် ဒုတိယအရစ်အဖြစ် အမေရိ ဒေါ်လာ (၁၅၀၀၀)အားလည်းကောင်း၊ ဟိုတယ်ငှားရမ်းခြင်းလုပ်ငန်းစတင်မဆောင်ရွက်မီ (၁) အလိုတွင် တတိယအရစ်အဖြစ် ကျန်ငွေ အမေရိကန်ဒေါ်လာ (၁၂၄၀၀)အားလည်းကောင်း၊ အရစ် စနစ်ဖြင့်အပြေအကြေပေးသွင်းရမည်။

၇. ၃ လုပ်ကိုင်ခွင့်ရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းခကို အောက် အတိုင်း တွက်ချက်ပေးသွင်းရမည်-

(က) ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ

(၁)**BeachFront**(အခန်း ၁၆ ခန်း ×**170 US$**×**365**)၏**35%=347480U**

(၂) **Sunset** (အခန်း ၄ ခန်း ×**300 US$**×**365** )၏**35% =153300US**

စုစုပေါင်း **=500780US**

(ခ) အခြားဝင်ငွေ-

ဟိုတယ်အခန်းငှားရမ်းခ ခန့်မှန်းဝင်ငွေ၏ ၁၀% **=50078US$**

(ဂ) ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ

ဟိုတယ်အခန်းငှားရမ်းခခန့်မှန်းဝင်ငွေ+ အခြားဝင်ငွေ **=550858 US**

(ဃ) နှစ်စဉ်မြေငှားရမ်းခ = ဟိုတယ်လုပ်ငန်းမှခန့်မှန်းဝင်ငွေ၏ (၅%)

**= 550858 US$** ၏ (၅%)

**= 27542.9 US$**

**say = 28000 US$**

၇. ၄ လုပ်ကိုင်ခွင့်ရသူသည် နှစ်စဉ်မြေငှားရမ်းခကို တစ်နှစ်လျှင် (၂) ကြိမ် အရစ်ကျပေး

ရမည်။ ပထမဆုံးအကြိမ်ကို ဤသဘောတူစာချုပ်တွင် ပါရှိသည့် ဟိုတယ်တရားဝင် ဖွင့်လှစ်သ
နေ့မှစ၍ ပေးချေရမည်။ ပထမအကြိမ်ပေးချေသည့်ငွေမှာ အမေရိကန်ဒေါ်လာ(၁၅၀၀၀) ဖြစ်ပါသ
ဒုတိယအရစ်ကို ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁)ရက်နေ့မတိုင်မီ ပေးချေရမည်။ဒုတိယအကြ
ပေးချေမည့်ငွေမှာ အမေရိကန်ဒေါ်လာ (၁၃၀၀၀) ဖြစ်သည်။

၇. ၅ စာချုပ်လက်မှတ်ရေးထိုးသည့်နှစ်တွင် အထက်ပါအတိုင်း ပေးချေပြီး နောက်လာမ
နှစ်မှစ၍ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကို ပထမအရစ်အဖြစ် ယင်းဘဏ္ဍာရေးနှစ်
စက်တင်ဘာလ (၃၀) ရက်နောက်ဆုံးထား၍ တစ်ကြိမ်၊ ဒုတိယအရစ်ကို ယင်းဘဏ္ဍာရေးနှစ်
မတ်လ (၃၁) ရက် နောက်ဆုံးထား၍ တစ်ကြိမ်မပျက်မကွက် ပေးသွင်းသွားရမည်။

၇. ၆ မြေငှားရမ်းခတစ်နှစ်လျှင် (၂) ကြိမ်အရစ်ကျပေးသွင်းရာတွင် ငွေပေးသွင်းမှုနော
ကျပါက လုပ်ကိုင်ခွင့်ရသူသည် နောက်ကျကြေးအဖြစ် တစ်ရက်လျှင် အမေရိကန်ဒေါ်
(၅၀) ဒေါ်လာနှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရမည်။

၇. ၇ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခကို အမေရိကန်ဒေါ်လာအစား ဗဟိုဘဏ်မှ သတ်မှ
သည့်ဈေးနှုန်း မြန်မာကျပ်ငွေဖြင့်လည်း ပေးသွင်းနိုင်ကြောင်း နှစ်ဦးနှစ်ဖက် သဘောတူကြသည

၇. ၈ နှစ်စဉ်မြေငှားရမ်းခနှုန်းထားနှင့်စပ်လျဉ်း၍ တွက်ချက်သတ်မှတ်သည့်နည်းလမ်းကို
နှစ်လျှင် (၁) ကြိမ် ညှိနှိုင်းသတ်မှတ်နိုင်သည်။

၇. ၉ အပန်းဖြေစခန်းနှင့် ဟိုတယ်တရားဝင်ဖွင့်လှစ်သည့် ရက်စွဲသည် တည်ဆောက်ရေး
လ သတ်မှတ်ရက် ထက်မကျော်လွန်စေရ။ အကယ်၍ ဟိုတယ်တရားဝင်ဖွင့်လှစ်သည့်နေ့သ
တည်ဆောက်ရေးကာလသတ်မှတ်ရက်ထက် ကျော်လွန်ပါက၊ နှစ်စဉ်ငှားရမ်းခကို အဆ
တည်ဆောက်ရေး ကာလပြီးဆုံးသည့်နေ့မှစ၍ ပေးချေရမည်။

၈။ **တည်ဆောက်ရေးကာလသတ်မှတ်ခြင်း**

၈. ၁ ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃၆) လအတွင်း အပန်းဖြေ
ခန်းနှင့် ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများကို သတ်မှတ်နယ်မြေအသီးသီးတွင် အပြီးဆောက်
ရမည်။

၈. ၂ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ကနဦးပတ်ဝန်းကျင် လေ့
ခြင်းကာလကို (၆) လတာကာလသတ်မှတ်သည်။ တည်ဆောက်ရေးကာလကို (၃၀) လသတ်မှတ်

အပြီးဆောင်ရွက်ရမည်။

၉။ လုပ်ကိုင်ခွင့်ပြုသူ၏တာဝန်များ

၉.၁ လုပ်ကိုင်ခွင့်ပြုသူသည် ဤသဘောတူစာချုပ်တွင်ပါရှိသောစည်းကမ်းချက်များနှင့်အ
စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍လုပ်ကိုင်ခွင့်ရသူအနေဖြင့် လုပ်ငန်းများလုပ်ကိုင်ရာတွ
အနှောင့်အယှက်မရှိ အေးချမ်းစွာလုပ်ကိုင်နိုင်ရန် ဆောင်ရွက်ပေးရမည်။

၉.၂ လုပ်ကိုင်ခွင့်ရသူကလုပ်ငန်းအတွက်လိုအပ်သော သွင်းကုန်ပစ္စည်းများ၊စက်ပစ္စည်းမျ
အပိုပစ္စည်းများ တင်သွင်းရာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရပိုင်ခွင့်ရှိသောအခွန်ကင်းလွတ်ခွ
အခွန်သက်သာခွင့်တို့ကို ခံစားနိုင်ရန် ကူညီဆောင်ရွက်ပေးရမည်။

၉.၃ လုပ်ကိုင်ခွင့်ပြုသူသည် လုပ်ကိုင်ခွင့်ရသူကပေးရန်ရှိသည့် မြေငှားရမ်းခများကိုသတ်မှ
ကာလအတွင်းမှန်ကန်စွာပေးသွင်းနိုင်ရန် ကြီးကြပ်ပေးရမည်။

၉.၄ လုပ်ကိုင်ခွင့်ပြုသူသည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကတရားဝင်တာဝန်ေ
သည့် လူပုဂ္ဂိုလ်၊အဖွဲ့အစည်းအနေဖြင့်လည်းကောင်း၊ လုပ်ကိုင်ခွင့်ရသူ၏ လုပ်ငန်းဆောင်ရွက်မှုများ
ကြိုတင်အသိပေးအကြောင်းကြား၍ ကြည့်ရှုစစ်ဆေးနိုင်သည်။

၁၀။ လုပ်ကိုင်ခွင့်ရသူ၏တာဝန်များ

၁၀.၁ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့် အ
မိမိ၏လုပ်ငန်းများကို အချိန်မီပြီးစီးအောင်ဆောင်ရွက်ရမည်။

၁၀.၂ လုပ်ကိုင်ခွင့်ရသူသည် သတ်မှတ်ထားသော မြေငှားရမ်းခနှင့် အခြားအခွန်၊ အခများ
အချိန်မီ မပျက်မကွက် ပေးသွင်းရမည်။

၁၀.၃ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းမှ အပ အခြားသော လုပ်င
တစ်စုံတစ်ရာကို ငှားရမ်းသည့် မြေပေါ်တွင် လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

၁၀.၄ လုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့် ကာလအတွင်း အဆောက်အဦများတိုးချဲ့ ခြ
အရန်ထားရှိသည့် မြေနေရာကို အသုံးပြုလိုခြင်းစသည့် ပြောင်းလဲဆောင်ရွက်ရန် ကိစ္စများ ဖြစ်ေ
လာပါက လုပ်ကိုင်ခွင့်ပြုသူထံသို့ စီမံချက်ရေးဆွဲ၍ မိမိလုပ်ကိုင်လိုသည့် ကာလမတိုင်မီ(၃)လ ကြိုတ
တင်ပြအသိပေး သဘောတူညီချက် ရယူပြီးမှ ဆောင်ရွက်ရမည်။

၁၀.၅ နှစ်စဉ်မြေငှားရမ်းခနှုန်းထားများသည်လည်း ဟိုတယ်အဆောက်အဦပြုပြင်ပြောင်း
ခြင်းပေါ်မူတည်၍ပြောင်းလဲသွားမည်ဖြစ်ပါသည်။

၁၀.၆ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ရာတ
တစ်ဆင့်ငှားရမ်းခြင်း၊ အခြားသော လူပုဂ္ဂိုလ်/အဖွဲ့အစည်းတစ်ခုခုသို့ လွှဲပြောင်းလုပ်ကိုင်ခြင်း မပြ

၁၀.၇ လုပ်ကိုင်ခွင့်ရသူသည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ အရင်းအနှီးငွေများရယူခြင်း၊ ချေးငွေမ
ရယူခြင်းကိစ္စများကို လုပ်ကိုင်ခွင့်ပြုသူထံ အသိပေး၍ ဆောင်ရွက်ရမည်။

၃။ မြန်မာနိုင်ငံရင်နှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်ရမည့် လုပ်ငန်းဆောင်ရွက်မှု
သည် သာမန်ဆောင်ရွက်သည့်ကိစ္စရပ်များထက် နိုင်ငံတော်၏အကျိုးစီးပွားကို ပိုမိုထိရောက်
အကောင်အထည်ဖော်နိုင်သည့် လုပ်ငန်းများဖြစ်ရန် လိုအပ်သဖြင့် ယခုကုမ္ပဏီမှ အဆိုပြုတင်ပြသ
Bangalo (၂၀) လုံး၊ အိပ်ခန်း(၂၄)ခန်းကို စီမံကိန်းပထမအဆင့်အနေဖြင့် အကောင်အထည်
ဆောင်ရွက်၍အိပ်ခန်းများတိုးချဲ့ခြင်းအပါအဝင် ဒုတိယအဆင့် ၊တတိယအဆင့်စီမံကိန်းများဆက်လ
ရေးဆွဲဆောင်ရွက်သင့်ပါကြောင်းအကြံပြုအပ်ပါသည်။

၄။ KMOT Co.,Ltd မှ သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းအတွ
ငှားရမ်းမည့် Beach Front Pool Villa (၁) လုံးလျှင် အမေရိကန်ဒေါ်လာ (၁၇၀) နှင့် Sunset Po
Villa (၁) လုံးလျှင် အမေရိကန်ဒေါ်လာ (၃၀၀)ဟု ဖော်ပြထားပြီး မြန်မာကျပ်ငွေအနေနှင့်ငှားရမ်းမ
ဆိုပါကငှားရမ်းခအမေရိကန်ဒေါ်လာနှင့်တန်ဖိုးညီမျှသောမြန်မာကျပ်ငွေပေါက်ဈေးအတိုင်းတန်ဖိုးသ
ငှားရမ်းမည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းမျ
ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန်လိုအပ်ပါသည်။

၅။ KMOT Co.,Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် ပြည်ပမှတင်သွင်းမ
တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍ အခွန်သက်သာခွင့်
ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

၆။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd တို့ ချုပ်ဆိုမည့် မြေငှားစာချ
တွင် မြေအသုံးချခအဖြစ် (၁) ဧကလျှင် အမေရိကန်ဒေါ်လာ (၃၃) နှုန်းဖြင့် မြေဧက (၉၀၀) အတွ
အမေရိကန်ဒေါ်လာစုစုပေါင်း(၂၉၇၀၀)ဟုလည်းကောင်း၊နှစ်စဉ်မြေငှားရမ်းခနှင့်စပ်လျဉ်း၍ အသုံး
နိုင်သော မြေ (၆၀) ဧက အတွက် (၁) ဧက လျှင် အမေရိကန်ဒေါ်လာ (၁၄၀)၊ အရန်ထားရှိသည့်
(၉၈)ဧကအတွက် (၁) ဧက လျှင် အမေရိကန်ဒေါ်လာ (၇.၀) ၊အကာအကွယ်ပေးသည့်မြေ (၇၄၂) ဧ
အတွက် (၁) ဧကလျှင်အမေရိကန်ဒေါ်လာ(၂.၂၅)နှုန်း စသည်ဖြင့် တွက်ချက်သတ်မှတ်ထားကြော
တွေ့ရှိရပါသည်။မြေဧက (၉၀၀) အနက် ၊(၆၀) ဧက ကိုသာ တည်ဆောက်ရေးအတွက် အသုံးပြုမှာဖြစ်
ယင်းအပေါ် မြေအသုံးချခ၊ မြေငှားရမ်းခနှုန်းထားများမှာလည်း အလွန်နည်းပါးလျှက်ရှိရာ ဖွံ့ဖြိုးတိုးတ
လာသည့်အခါ ပြန်လည်ပြင်ဆင်သတ်မှတ်နိုင်မည့်အခြေအနေမျိုး စာချုပ်တွင်ထည့်သွင်းဖော်ပြနိုင်မှသ
လျှင် ထိုက်သင့်သည့်အကျိုးကျေးဇူးကို ဒေသခံအစိုးရအဖွဲ့မှ ခံစားရရှိနိုင်မည်ဖြစ်ပါသည်။

၇။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများ ထိန်းသိမ်းခြင်း
ငါးမျိုးစိတ်များထိန်းသိမ်းခြင်း၊ သဘာဝပေါက်ပင်များထိန်းသိမ်းခြင်းများကို လိုက်နာဆောင်ရွက်မ
စီမံကိန်းအစီအမံများကို တိကျစွာရေးဆွဲဖော်ပြသင့်ပါသည်။

၈။ ကုမ္ပဏီမှ ကျွန်းပေါ်တွင် သဘာဝအခြေခံသောအပန်းဖြေစခန်းနှင့်ဟိုတယ်တည်ဆောက်
လုပ်ငန်းကိုဆောင်ရွက်မည်ဖြစ်သည့်အတွက် ဌာနကြီးဌာန၏(၁-၁-၂၀၁၅)ရက်စွဲဖြင့် ထုတ်ပြန်
သော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) "ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွ
လိုက်နာဆောင် ရွက်ရန်အချက်များ " ကိုလည်းလေ့လာ၍ လိုက်နာဆောင်ရွက်ရန်လိုအပ်ပါသည်။

၉။ KMOT Co.,Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်
အခန်းများဖွဲ့စည်းရေးနှင့်လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်
ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့်လိုင်စင်ဆိုင်ရာအမိန့်များတွင် ပါဝင်သောဟိုတယ်တည်ဆော
ရေးဆိုင်ရာအခြေခံလိုအပ်ချက်စံနှုန်းများ (Basic Requirements and Criteria) ထက်မနိမ့်
စေရေးအတွက်အဆိုပါဥပဒေ၊အမိန့်များကိုကြိုတင်ရယူလေ့လာ၍ဆောင်ရွက်သွားရန်လိုအပ်ပါသ

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန်ကြီးရုံး**

နေပြည်တော်

စာအမှတ်၊ ၁၅ ခွဲ (၅) ၁၅ ( ၁၃၄၁၉ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်

PT-5939
4-12-15

သို့

1302
3-12-15

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / ထွေ - ဟိုတယ်/ ၂၀၁၅(၉၈၅)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းစာပါ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်နှင့် မြိတ်ခရိုင်တို့ရှိ ကျွန်းများ၌ B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) Domel Islands Development Co.,Ltd. ၏ အဆိုပြုဧရိယာသည် မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိသော မြန်မာတာဆာကီ ကုမ္ပဏီလီမိတက်၏ စာချုပ်ပါ ပုလဲမွေးမြူထုတ်လုပ်ရေး ဧရိယာနှင့် လွတ်ကင်းမှုမရှိပါသဖြင့် ကန့်ကွက်ပါကြောင်း၊ **နောက်ဆက်တွဲ(က)**

( ခ ) KFuture Co., Ltd.၏ အဆိုပြုဧရိယာမှာ ပုလဲမွေးမြူရေးကျွန်းစခန်းများနှင့် လွတ်ကင်းမှုရှိသောကြောင့် ကန့်ကွက်ရန်မရှိသော်လည်း အဆိုပါစီမံကိန်းတွင်ပါဝင်သော မျောက်နီကျွန်းနှင့် မျောက်ဖြူကျွန်းရေပြင်ဧရိယာများသည်မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်လျက်ရှိသော မြန်မာအန်ဒါမန်ပါးလ် ကုမ္ပဏီ၏မွေးမြူရေးရေပြင်ဧရိယာများဖြစ်ကြောင်း၊ **နောက်ဆက်တွဲ(ခ)**

( ဂ ) KMOT Co .,Ltd.၏အဆိုပြုဧရိယာမှာ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်း၏ ပုလဲမွေးမြူထုတ်လုပ်ရေးကျွန်းစခန်းများနှင့် လွတ်ကင်းမှုရှိသဖြင့် ကန့်ကွက်ရန်မရှိသော်လည်း အဆိုပါ ဧရိယာ အနီးရှိ ဂျလန်းကျွန်းအရှေ့ဘက်ပိုင်း ဧရိယာများနှင့် နားခိုကျွန်းတို့သည် မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်လျက်ရှိသော အရှေ့တိုင်း ပုလဲကုမ္ပဏီ၏ ပုလဲမွေးမြူလျက်ရှိသောဧရိယာများဖြစ်သဖြင့် ပုလဲမွေးမြူခြင်းဆိုင်ရာ လုပ်ငန်းများ ထိခိုက်မှုမရှိစေရန် ဆောင်ရွက်သင့်ပါကြောင်း၊ **နောက်ဆက်တွဲ(ဂ)**

(ဃ) Amata International Co., Ltd. ၏ အဆိုပြုဧရိယာသည် မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများ၏ ကွင်းစခန်း ဧရိယာများနှင့် လွတ်ကင်းမှု ရှိသဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊

(င) Saw Mon Hla Island Resort Co., Ltd ၏ အဆိုပြုဧရိယာသည် မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်လျက်ရှိသော မြန်မာတာဆာကီကုမ္ပဏီ ၏တိုးချဲ့ဧရိယာအတွင်း ပါဝင်သဖြင့်ကန့်ကွက်ပါကြောင်း၊ **နောက်ဆက်တွဲ(ဃ)**

၂။ သို့ဖြစ်ပါ၍ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်းမှ ပုလဲမွေးမြူလျက်ရှိသော ကွင်းစခန်း များ၏ ဧရိယာများ၊ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်လျက်ရှိ သောကုမ္ပဏီများ၏ကွင်းစခန်းဧရိယာများ၊ မုတ်ကောင်သားဖောက်ပုလဲမွေးမြူထုတ်လုပ်ရန် လျှောက်ထားဆဲကုမ္ပဏီ များ၏ ကွင်းစခန်းဧရိယာများနှင့် ရေပုံများအား သတ္တုတွင်းဝန်ကြီးဌာန၏ (၇.၇.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၃၈ ခွဲ (၁) ၁၅ (၇၀၄၇)ဖြင့်တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးသို့ ပေးပို့ထားပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ မိတ္တူပေးပို့ထားပြီးဖြစ်ပါကြောင်းနှင့် တနင်္သာရီတိုင်း ဒေသကြီးတွင် ပုလဲမွေးမြူသည့်လုပ်ငန်းများ ဆောင်ရွက်လျက်ရှိသဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကြောင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ပြီး ပုလဲမွေးမြူသည့်လုပ်ငန်းများတွင် ထိခိုက်မှုများရှိလာနိုင်သဖြင့် နယ်မြေ များအား စိစစ်ကန့်သတ်ပေးသင့်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

**ပူးတွဲ(၃၆)ရွက်**

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ငွေးအောင်၊အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

သတ္တုတွင်းဦးစီးဌာန
မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်း

နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ကာကွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၃/၁၉ ဗ (အုပ်ချုပ်ရေး) / ကက

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၅

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁ -၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-
ထွေ-ဟိုတယ် / ၂၀၁၆ (၁၀၃)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်နှင့်မြိတ်ခရိုင်တို့ရှိ ကျွန်းများ၌ B.O.T စနစ်ဖြင့် ဟိုတ
ဝန်ဆောင်မှုလုပ်ငန်းများအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံသား ရင်းနှီးမြှု
ဥပဒေဖြင့်လည်းကောင်း ဆောင်ရွက်ရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ မှတစ်ဆင့် အဆိုပြုချက်များ တ
လာမှုနှင့်ပတ်သက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၆)၊ အပိုဒ်(၄၃)ပါပြဋ္ဌာန်းချက်အရလည်းကော
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်အရလည်းကောင်း အဆိုပြု
များကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများလိုအပ်နေပြီး ကော်မရှင်အနေဖြင့်လ
လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် နိုင်ငံတော်သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ကာကွယ်
ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအား ရက်သတ္တပတ် တစ်ပတ်အတွင်း ပြန်ကြားပေးနိုင်ပါ
ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အထက်ပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုထားသည့်ကျွန်း(၈)ကျွန်းအနက် ဒိုမယ်ကျွန်းပေါ်
ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်အတွက် ပုလဲလုပ်ငန်းဧရိယာနှင့် လုံခြုံရေးအရ လွတ်ကင်းသည့် မြေ(၁၀
ဧကခန့်သာ ခွင့်ပြုနိုင်ပါကြောင်းနှင့် ကျန်ရှိသည့်ကျွန်း(၇)ကျွန်းအား ခွင့်ပြုနိုင်ပါကြောင်း၊ အဆိုပါလုပ်
များဆောင်ရွက်မည်ဆိုပါက ရေလမ်းကြောင်းလုံခြုံရေး၊ နိုင်ငံခြားသားခရီးသွား ဧည့်သည်လုံခြုံရေးနှင့် သဘ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးတို့အတွက် ပြည်ထဲရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်
ဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ဒေသအာဏာ
အဖွဲ့အစည်းများအနေဖြင့် တပ်မတော်(ရေ)နှင့် စနစ်တကျပူးပေါင်း ဆောင်ရွက်ရန်လိုအပ်ပါကြေ
ပြန်ကြားအပ်ပါသည်။

၁၅ ၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်စိုး၊ လက်ထောက်အတွင်းဝန်)

မိတ္တူကို

THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

# PERMIT

Permit No. ______/2016 Date ______ March 2016

This Permit is issued by the Myanmar Investment Commission according to the section 13, sub-section (b) of the Republic of the Union of Myanmar Foreign Investment Law-

(a) Name of Investor/Promoter U KYIN SEIN @ CHAN KYAN SEIN

(b) Citizenship MYANMAR

(c) Address NO.45, RIVER VIEW HOUSING, STRAND ROAD, SIN-MIN WARD, AHLONE TOWNSHIP, YANGON

(d) Name and Address of Principal Organization KNL DEVELOPMENT COMPANY LIMITED

(e) Place of incorporation MYANMAR

(f) Type of investment business HOTEL SERVICES

(g) Place(s) at which investment is permitted 158 ACRE OF HLAINGGU ISLAND , SUNGEBARLINE VILLAGE TRACT , KAWTHAUNG TOWNSHIP, TANINTHAYI REGION

(h) Amount of Foreign Capital US$ 1.23 MILLION

(i) Period for foreign capital brought in WITHIN TWO YEARS FROM THE DATE OF ISSUANCE OF MIC PERMIT

(j) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 2.50 MILLION (INCLUDING US$ 1.23 MILLION)

(k) Construction period 3 YEARS

(l) Validity of investment Permit 50 YEARS

(m) Form of investment JOINT VENTURE

(n) Name of company incorporated in Myanmar KMOT COMPANY LIMITED

Chairman

Myanmar Investment Commission

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ____/၂၀၁၆ ၂၀၁၆ ခုနှစ် မတ်လ ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၃၊ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) **ကမကထပြုသူ၏အမည်** ဦးကြင်စိန်(ခ)ချန်ကျန်စိန်

(ခ) **နိုင်ငံသား** မြန်မာ

(ဂ) **နေရပ်လိပ်စာ** အမှတ်(၄၅)၊ ကမ်းနားအိမ်ရာ၊ ကမ်းနားလမ်း၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။

(ဃ) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** KNL DEVELOPMENT COMPANY LIMITED

(င) **ဖွဲ့စည်းရာအရပ်** မြန်မာနိုင်ငံ

(စ) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လိုဏ်ဂူကျွန်းရှိ မြေ ဧရိယာ(၁၅၈)ဧက

(ဇ) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** အမေရိကန်ဒေါ်လာ ၁.၂၃ သန်း

(ဈ) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** ခွင့်ပြုမိန့်ရရှိသည့်နေ့မှ (၂)နှစ်အတွင်း

(ည) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** အမေရိကန်ဒေါ်လာ ၂.၅၀ သန်း နှင့်ညီမျှသော မြန်မာကျပ်ငွေ (အမေရိကန်ဒေါ်လာ ၁.၂၃ သန်း အပါအဝင်)

(ဋ) **တည်ဆောက်မှုကာလ** ၃ နှစ်

(ဌ) **ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း** ၅၀ နှစ်

(ဍ) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) **မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်** KMOT COMPANY LIMITED

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

THE REPUBLIC OF THE UNION OF MYANMAR

**MYANMAR INVESTMENT COMMISSION**

**No.1,Thitsar Road, Yankin Township, Yangon**

Tel : 01-658129 Our ref : DICA-4/FI-029/2016( )

Fax: 01-658137 Date : March 2016

**Subject: Decision of the Myanmar Investment Commission on th proposal for "Hotel Services" under the name of KMO Company Limited.**

Reference: Office of the Thaninthayi Region Government Letter dated 29-6-201 on 3529/839/8-39/AFY(Thaninthayi)

1. The Myanmar Investment Commission, at its meeting (9/2016) held o 11th March, 2016 had approved the proposal for investment in "Hotel An Recreation Centre" under the name of KMOT Company Limited submitted as a join venture between Infinite Creation Co., Ltd. of Thailand (49%) and KNL Developmer Co., Ltd. (51%)of Republic of the Union of Myanmar.

2. Hence, the "Permit" is herewith issued in accordance with Chapter VI section 13(b)of the Foreign Investment Law and Chapter VIII, Rule 49 of th Foreign Investment Rules relating to the Foreign Investment Law. Terms an conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be initial 50(fifty) years an extendable for 10(ten)years in 2(two)times commencing from the date of th issuance of Myanmar Investment Commission's permit. The land lease period shal be initial 50 (fifty) years from the date of signing of the Lease Agreement betwee Thaninthayi Region Government (Lessor) and KMOT Company Limited (Lessee). O the expiry of the term or termination of the lease Agreement, KMOT Compan Limited (Lessee) shall transfer the land and building (including immovable o moveable property) to the Thaninthayi Region Government (lessor) without an consideration.

~~3.~~ 4. KMOT Company Limited shall provide the Land Use Premium to the tota amount of US$ 47,400 (United States Dollar fourty-seven and four hundred only) fo 158 acres to Taninthayi Region Government in three instalments as follow:-

(a) the first instalment, the Land Use Premium Fee US$ 20,000 shall be pai
the signing date of the Lease Agreement;

(b) the second instalment, the Land Use Premium Fee US$ 15,000 shall b
paid within construction period;

(c) the final instalment, the Land Use Premium Fee US$ 12,400 shall be pai
on the date of one month ahead of official opening of the hotel.

4. The annual lease rate shall be US$ 28,000 (United States Dollar twenty-eigh thousand only) for 158 acres. Payment of annual rent shall be made by KMO Company Limited to the Taninthayi Regional Government in two instalmen according to the Land Lease Agreement. The rate of rent shall be reviewed an revised in view of prevailing land lease rates every 5 (five) years.

5. In issuing this "Permit," the Commission has granted, the following exemptions and reliefs as per Chapter XII, section 27(a) and (h) of th Foreign Investment Law. Other exemptions and reliefs under section 2 shall have to be applied upon the actual performance of the project;

(a) As per section-27(a), income tax exemption for a period of fiv consecutive years including the year of commencement on commercia operation;

(b) As per section-27(h), exemption or relief from custom duty or othe internal taxes or both on machineries, equipment, instrument machinery components, spare parts and materials used in the busines which are imported as they are actually required for used during th period of construction of business;

6. KMOT Company Limited shall have to sign the Land Lease Agreement an Build, Operate and Transfer (B.O.T) Agreement with the Government of th Thaninthayi Region. Moreover, KNL Development Company Limited shall have t sign the Joint Venture Agreement with Infinite Creation Co., Ltd. After signing suc Agreements, each of (5) copies shall have to be forwarded to the Commission.

7. KMOT Company Limited shall also have to obtain license from Ministry o Hotels and Tourism to operate the hotel business and shall abide by the Myanma Hotels and Tourism Law, other related laws, rules and regulations under th Ministry of Hotels and Tourism.

8. KMOT Company Limited in consultation with the Company Divisio Directorate of Investment and Company Administration shall have to be registere After registration, (5) copies each of Certificate of Incorporation an Memorandum of Association and Articles of Association shall have to b forwarded to the Commission.

9. KMOT Company Limited shall use its best efforts for timely realization c works stated in the proposal. If none of such works has been commenced withi one year from the date of issue of this "Permit", it shall become null and void.

10. KMOT Company Limited has to abide by Chapter X, Rules 58 and 59 of th Foreign Investment Rules for construction period.

11. As per Chapter X, Rule 61 of the Foreign Investment Rules, extension c construction period shall not be allowed more than twice except the conditions c force majeure such as natural disaster, instabilities, riots, strikes, a State of emergenc armed opposition, rebellion and outbreak of wars.

12. As per Chapter X, Rule 63 of the Foreign Investment Rules, if KMO Company Limited cannot construct completely in time the construction period c extension period, the Commission will have to withdraw the permit issued to th investor and there is no refund for the expenses of the project.

13. The investor or promoter shall apply the commencement of the openin date with Form(11) of the Construction, Leasing and Management of Commerci and Residential Buildings and report to the Myanmar Investment Commission i accordance with Foreign Investment Rule 97.

14. The Commission approves periodical appointments of foreign experts an technicians from abroad as per proposal and also in accordance with Chapter X section 24 and section 25 of the Myanmar Foreign Investment Law and KMO Company Limited has to follow the exisiting Labour Laws for the recruitment c staff and labour in accordance with Chapter XIII, Rule 84 of the Foreig Investment Rules.

15. In order to evaluate foreign capital and for the purpose of its registration i accordance with the provisions under Chapter XV, section 37 of the Myanma Foreign Investment Law, it is compulsory to report as early as possible in th following manner:-

(a) the amount of foreign currency brought into Myanmar, attached wit the necessary documents issued by the respective bank where th

account is opened and defined under Chapter XVI, Rules 134 and 13 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined unde Chapter I, section-2 (i) of the Foreign Investment Law, other tha foreign currency.

16. KMOT Company Limited brings in foreign capital defined under Chapter section-2(i) of the Foreign Investment Law, other than foreign currency in th manner of paragraph 15(b) mentioned above, the Inspection Certificate endorse and issued by an internationally recognized Inspection Firm with regard t quantity, quality and price of imported materials shall have to be attached.

17. KMOT Company Limited has the right to make account transfer and expen the foreign currency from his bank account in accordance with Chapter XV Rule 136 of the Foreign Investment Rules and for account transfer of loca currency generated from the business to the local currency account opened at th bank by a citizen or a citizen-owned business in the Union and right to transfe back the equivalent amount of foreign currency from the foreign currency ban account of citizen or citizen-owned business by submitting the sufficier documents in accordance with Chapter XVII, Rule145 of the Foreign Investmer Rules.

18. KMOT Company Limited shall report to the Commission for any alteratio in the physical and financial plan of the project. Cost over run, over and abov the investment amount pledged in both local and foreign currency shall have t be reported as early as possible.

19. KMOT Company Limited shall be responsible for the preservation of th environment at and around the area of the project site. In addition to this, KMO Company Limited shall carry out as per instructions made by Ministry o Environmental Conservation and Forestry in which to conduct and report th Environmental Impact Assessment (EIA) and before the implementation of th proposed project and to submit the Environmental Management Plan (EMP which describe the measure to be taken for preventing, mitigation an monitoring significant environmental impacts resulting from the implementatio and operation of proposed project or business or activity has to be prepared an submitted and to perform activities in accordance with this EMP to abide by th environmental policy, Environmental Conservation Law and other environmenta related rules and regulations meanwhile KMOT Company Limited has made

commitment to conduct Environmental Management Plan (EMP) report throug National Engineering & Planning Services Company Limited.

20. KMOT Company Limited shall have to abide by the Fire Services Department rules, regulations, directives and instructions. Fire prevention measures and system fo early fire detection to be installed and shall also have to undertake such as wate storage tank, fire extinguishers and provide training to use the fire fighting equipmen and to appoint safety officer.

21. Payment of principal and interest of the loan shall only be made out of th services income of KMOT Company Limited.

22. KMOT Company Limited in consultation with Myanma Insurance, sha effect such types of insurance defined under Chapter XII, Rules 79 and 80 of th Foreign Investment Rules.

(Zay Yar Aung)
Chairman

**KMOT Company Limited**

**c/o Thaninthayi Region Government**

cc:
1. Office of the Government of the Republic of the Union of Myanmar
2. Ministry of Home Affairs
3. Ministry of Foreign Affairs
4. Ministry of Environmental Conservation and Forestry
5. Ministry of Electric Power
6. Ministry of Immigration and Population
7. Ministry of Construction
8. Ministry of Commerce
9. Ministry of Finance
10. Ministry of National Planning and Economic Development
11. Ministry of Labour, Employment and Social Security
12. Central Bank of Myanmar
13. Office of the Thaninthayi Region Government
14. Director General, Department of Environmental Conservation

15. Director General, Immigration and National Registration Department
16. Director General, Department of Trade
17. Director General, Internal Revenue Department
18. Director General, Customs Department
19. Director General, Directorate of Investment and Company Administrati
20. Director General, Directorate of Labour
21. ~~Director General, Department of Urban and Housing Development~~
22. Director General, Department of Electric Power Planning
23. Director General, Department of Fire Services
24. Managing Director, Myanma Foreign Trade Bank
25. Managing Director, Myanma Investment and Commercial Bank
26. Managing Director, Myanma Insurance
27. Chairman, Myanmar Tourism Federation

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၄ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုက်ဂူကျွန်း၊ မြေဧရိယာ(၁၅၈)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် ခွင့်ပြုမိန့် ထုတ်ပေးရန်အတွက် ဥပဒေရှုထောင့်မှ စစ်ဆေးပေးနိုင်ပါရန် တင်ပြခြင်း**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုက်ဂူကျွန်းရှိ မြေ ဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ) ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုတင်ပြခြင်းအား ၂၀၁၅ ခုနှစ်၊ မတ် လ ၁၁ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၉/၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ ရာ မြေဧရိယာ(၁၅၈)ဧကဖြင့် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။

၂။ သို့ပါ၍ Permit နှင့် Decision တို့အပေါ် ဥပဒေရှုထောင့်မှ သုံးသပ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

24/3/16

(ဝင်းမို့မို့အေး)
ဦးစီးအရာရှိ

**လ/ထ-ညွှန်မှုး**

၃။ MIC ၏ (၉/၂၀၁၆) အစည်းအဝေး ... Permit and Decision ... တင်ပြအပ်ပါသည်။

24/3

၄/ ...

၄။ ... Permit & Decision များ ဥပဒေရှုထောင့်မှ သုံးသပ် ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

24/3/16

(၁၁-၃-၂၀၁၆)နေ့တွင် ကျင်းပမည့် အစည်းအဝေးအတွက် ရင်းနှီး(၃)မှပေးပို့ခြင်း

MIC Agenda (      /၂၀၁၆)

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်အမှာစာ

**ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်း ဒေသကြီး၊ ကော့သောင်းခ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြ ကိစ္စ**

အထူးဖိတ်-

၁။ ဦးတင့်သွင်
ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

၂။ သက်ဆိုင်ရာတာဝန်ရှိသူတစ်ဦး
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

**KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်း မြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေ(၉၀၀)ဧကတွင် B.O.Tစနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ် လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၃-၇-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၂၅-၈-၂၀၁၅ | |
| | (ခ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၆-၈-၂၀၁၅ | |
| | (ဂ) သတ္တုတွင်းဝန်ကြီးဌာန | **၁၄-၁၂-၂၀၁၅** | **၂၈-၁၂-၂၀၁၅** | |
| | (ဃ) ကာကွယ်ရေးဝန်ကြီးဌာန | **၂၂-၁-၂၀၁၆** | **၁၇-၂-၂၀၁၅** | |
| ၃။ | PAT အစည်းအဝေး (၂၄/၂၀၁၅) သို့ တင်ပြခြင်း | ၁၃-၇-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂၀-၇-၂၀၁၅ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၁၆-၁၂-၂၀၁၅ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၁၅)စုံ ပြန်လည်ပေးပို့ခြင်း | ၂-၃-၂၀၁၆ | | |
| ၇။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | ၉/၂၀၁၆ (၁၁-၃-၂၀၁၆) | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၂၄၂)ရက်** | | |

မှတ်ချက်။ တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ကျွန်းများပေါ်တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်လုပ်ကိုင်ရန် တင်ပြထားသည့် အဆိုပြုချက်များနှင့် စပ်လျဉ်း၍ မူဝါဒများ လမ်းညွှန်ချက်များ ခံယူထားဆဲဖြစ်သဖြင့် ရက်ပေါင်း ၂၄၂ ကျော် ကြာမြင့် နေခြင်း ဖြစ်ပါသည်။

| | |
|---|---|
| ကုမ္ပဏီအမည် | - KMOT Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ် လုပ်ငန်း |
| တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေ ဧရိယာ(၉၀၀) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၂.၅၀ သန်း |
| လုပ်ငန်းသက်တမ်း | -၅၀ နှစ် |
| အရင်းကြေကာလ | - (၅)နှစ်၊(၇)လ |
| IRR | - ၁၁.၂၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၁၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၇၆၂.၆၉ |
| ၅ | ဝင်ငွေခွန် | ၃၈၅၁.၀၆ | ၄၅၉၃.၀၂ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၉၃.၉၆ |
| ၇ | CSR (၂%) | - | ၇၃.၀၂ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၅၆ ဦး |
| | စုစုပေါင်း | ကျပ် ၃၈၅၃.၇၇ သန်း | ကျပ် ၇၆၂၃.၈၅ သန်း |
| | Cost ： Benefit | ၁: ၂ | |

ကန့်သတ်

# KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်း မြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေ(၉၀၀)ဧကတွင် B.O.Tစနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - KMOT Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကြင်စိန်(ခ)ချန်ကျန်စိန် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစ<br>နှင့် ဟိုတယ် လုပ်ငန်း |
| | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သေ<br>မြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ<br>ဧရိယာ(၉၀၀)ဧက |
| ၂။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး(၅၀)နှစ် |
| ၄။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏ | - US$ ၂.၅၀ သန်း |
| ၅။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | (see table below) |
| ၆။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁၁၀၄.၃၉ သန်း၊ US$ ၀.၇၄ သန်း<br>- ကျပ် ၃၁၀.၀၈ သန်း |
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>(၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၀၃.၃၆ သန်း<br>- ကျပ် ၉၃.၀၀ သန်း |

| စဉ် | ဝန်ဆောင်မှုပေးမည့် အခန်း အမျိုးအစား | ဝန်ဆောင်မှု ပေးနိုင်မည့် အခန်း | Occupancy rate(%) | ၁ခန်းလျှင် ဝန်ဆောင်ခ နှု | |
|---|---|---|---|---|---|
| | | | | US$ | ကျပ် |
| က | Beach Front Pool Villa | ၁၆ | ၆၀ % | ၂၁၀ | ၂၁၅,၆၇ |
| ခ | Sunset Pool Villa | ၄ | ၆၀ % | ၃၆၀ | ၃၆၉,၇၂ |

| | | |
|---|---|---|
| ၈။ | အရင်းကြေကာလ | - (၅)နှစ်၊(၇)လ |
| ၉။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၁.၂၃ % |
| ၁၀။ | လုပ်သားအင်အား | - ပြည်တွင်း -၅၆ ဦး |
| ၁၁။ | လစာပေးချေမှုအစီအစဉ် | - ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ( (၁၁၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် (၅၀၀,၀( ဖြစ်ပါသည်။ နိုင်ငံခြားသား ပညာရှင်(၃)ဦးအား လိုအ( က ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSRအတွက် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်း သ မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြို( ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | - လိုအပ်သော လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလို( ရယူအသုံးပြုနိုင်ခြင်း မရှိသည့်အတွက် ကိုယ်ပိုင်မီး( (Generator-150 KVA)ဖြင့် အသုံးပြုသွားမည် ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | - ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၂၀ ရက်နေ့တွင် ဟိုတယ် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တေ( နီလာခန်းမ၌ တနင်္သာရီတိုင်းဒေသကြီးရှိ ဒိုမယ်ကျ( မြေငှားရမ်းခ နှင့်စပ်လျဉ်း၍ အစည်းအဝေးကျင်းပခဲ့( ယင်းအစည်းအဝေးမှ ညှိနှိုင်းရရှိခဲ့သည့် ငှားရမ်းခ( အသုံးချခ နှုန်းထားတို့အား ကျန် ကျွန်းများ၌လ( ယင်းနှုန်း ထားဖြင့် ငှားရမ်းရမည် ဖြစ်ကြေ( တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့မှ တင်ပြထာ( သည်။<br>- အဆိုပါ ငှားရမ်းခနှုန်းထားများ ပြင်ဆင်သတ်မှတ်( အား ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် ကျ( သော တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့ အစ( အဝေး အမှတ်စဉ် (၂/၂၀၁၆)သို့ တင်ပြခဲ့ရာ အတည်( ပြီး ဖြစ်ပါကြောင်း တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖ( တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှ Speed Bo( (၂)စီးအား တင်သွင်းလိုကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/န-၀၂၉/၂၀၁၆( ၃၄၆

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ)ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုတင်ပြခြင်းအား ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုချက်ပါ ထိုင်းနိုင်ငံ Infinite Creation Co., Ltd. နှင့် မြန်မာနိုင်ငံ KNL Development Co., Ltd. တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် မူကြမ်း၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် KMOT Co., Ltd. တို့ B.O.T စနစ်ဖြင့် မြေငှားရမ်းမည့် မြေငှား စာချုပ်(မူကြမ်း)များ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး (၅၀) နှစ်၊ တစ်ကြိမ်လျှင်(၁၀) နှစ်စီဖြင့် (၂)ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်သည်။ ပဏာမ စူးစမ်း လေ့လာမှု ပြုလုပ်မည့် ကာလမှာ (၆)လဖြစ်ပါသည်။

၄။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် KMOT Co., Ltd. တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)နှင့် B.OT စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ဖြစ်ပြီး သက်တမ်းအား နောက်ထပ် တစ်ကြိမ်လျှင် ၁၀ နှစ်စီဖြင့် ၂ ကြိမ် ဆက်လက်ငှားရမ်းနိုင်ရေး တင်ပြဆောင်ရွက်ရမည်။(စာချုပ်အပိုဒ် ၅-၁)

ကန့်သတ်

(ခ) လှိုဏ်ဂူကျွန်းရှိ မြေ(၉၀၀)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် အောက် အတိုင်း ခွဲခြား သတ်မှတ်ပြီး လုပ်ကိုင်ခွင့်ပြုသူ၏ ငွေစာရင်းခေါင်းစဉ်ဖြင့် ဘဏ် ပေးသွင်းရမည်-

| စဉ် | မြေအမျိုးအစား | ဧက | နှုန်းထား (အမေရိကန်ဒေါ်လာ) |
|---|---|---|---|
| (က) | အသုံးပြုနိုင်သောမြေ | ၆၀ | ၁၈,၀၀၀(တစ်ဧကလျှင် US$ ၃၀၀နှုန်း) |
| (ခ) | အရန်ထားရှိသည့်မြေ | ၈၄၀ | ၃၃,၆၀၀(တစ်ဧကလျှင် US$ ၄၀နှုန်း) |

(ဂ) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် အမေရိကန်ဒေါ်လာ ၅၁၆၀၀ အား စာချုပ် လက်မှ ရေးထိုးသည့်နေ့တွင် ပထမအရစ်အဖြစ် အမေရိကန်ဒေါ်လာ ၂၀၀၀၀ အား လည် ကောင်း၊ ဒုတိယအရစ်အဖြစ် ဟိုတယ်တည်ဆောက်ရေးလုပ်ငန်း စတင်သည့် ကာလ တွ အမေရိကန်ဒေါ်လာ ၂၀၀၀၀ အား လည်း ကောင်း၊ တတိယအရစ်အဖြစ် ဟိုတ လုပ်ငန်းမစတင်မီ ၁ လအလိုတွင် ကျန်ငွေ အမေရိကန်ဒေါ်လာ ၁၁၆၀၀ အား လည် ကောင်း သတ်မှတ်ထားသော ငွေစာရင်းခေါင်းစဉ်သို့ အရစ်ကျပေးသွင်းရမည်။ (စာချ အပိုဒ် ၇-၂)

(ဃ) နှစ်စဉ် မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၂၈၀၀၀ (သို့မဟုတ်) ဟိုတယ် လုပ်ငန် ဝင်ငွေ၏ ၅ % အနက်များရာကို ပေးသွင်းရမည်။ -(စာချုပ်အပိုဒ် ၇-၃)

(င) မြေငှားရမ်းခအား တစ်နှစ်လျှင် နှစ်ကြိမ် ပေးသွင်းရမည်ဖြစ်ပြီး ပထမအကြိမ်မှ အမေရိကန်ဒေါ်လာ ၁၅၀၀၀၊ ဒုတိယအကြိမ်မှာ အမေရိကန်ဒေါ်လာ ၁၃၀၀ (သို့မဟုတ်) ဟိုတယ်လုပ်ငန်း ဝင်ငွေ၏ ၅ % သည် ပိုမိုများပြားနေပါက များရာ ပေးသွင်းရမည်။ -(စာချုပ်အပိုဒ် ၇-၄)

(စ) စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ ၃၆ လအတွင်း ဟိုတယ် တည်ဆောက်ရေ လုပ်ငန်းများကို သတ်မှတ်နယ်မြေ အသီးသီးတွင် အပြီးတည်ဆောက်ရမည်ဖြစ်သည်။

(စာချုပ်အပိုဒ် ၈-၁

(ဆ) ကနဦးပတ်ဝန်းကျင်လေ့လာခြင်းကို ၆ လ ၊ တည်ဆောက်ရေးကာလကို ၃၀ လ သတ်မှ ၍ အပြီးဆောင်ရွက်ရမည်။ (စာချုပ်အပိုဒ် ၈-၂)

(ဇ) နှစ်စဉ် ရရှိသည့် အမြတ်ငွေများထဲမှ အသားတင်အမြတ်၏ ၂ % (သို့မဟုတ်) ငွေ ကျ ၂၀,၀၀၀,၀၀၀ တို့အနက်များရာကို ဒေသဖွံ့ဖြိုးရေးရန်ပုံငွေအဖြစ် လုပ်ကိုင်ခွင့်ပြုသူ နှစ်စဉ်ပေးသွင်းရမည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ US$ ၂.၅၀ သန်းဖြစ်ပြီး ၎င်းတွင် နိုင်ငံခြား မတည ငွေရင်း US$ ၁.၂၂ သန်း (၄၉%) နှင့် နိုင်ငံသား မတည်ငွေရင်း US$ ၁.၂၈ သန်း (၅၁ %) တို့ ထည့်ဝ ထားပါသည်။ လုပ်ငန်းသုံးပစ္စည်းများ နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများ၊ လုပ်ငန်းသုံးယာ တန်ဖိုးများဖြစ်သည့် အမေရိကန်ဒေါ်လာ ၂၈၀,၀၀၀ ဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံ အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

**ကန့်သတ်**

(US$)

| | မတည်ငွေရင်း | | စုစုပေါင်း |
|---|---|---|---|
| | နိုင်ငံသား | နိုင်ငံခြား | |
| Cash | ၉၀,၀၀၀ | | ၉၀,၀၀၀ |
| Machinery & Equipment ၊ Hotel Use | | ၂၈၀,၀၀၀ | ၂၈၀,၀၀၀ |
| Building Cost | ၁,၁၈၅,၀၀၀ | ၉၄၅,၀၀၀ | ၂,၁၃၀,၀၀၀ |
| **စုစုပေါင်း** | **၁,၂၇၅,၀၀၀** | **၁,၂၂၅,၀၀၀** | **၂,၅၀၀,၀၀၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း(၅၆)ဦး ခန့်ထား မည်ဖြစ်ကြောင်း တင်ပြထား သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျ ၅၀၀,၀၀၀ ဖြစ်ပါသည်။ နိုင်ငံခြားသားပညာရှင် (၃)ဦးအား လိုအပ်ပါက ခန့်ထားမည်ဖြစ်ကြော တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှုပေးမည့် အခန်းအမျိုးအစား | ဝန်ဆောင်မှု ပေးနိုင်မည့် အခန်း | Occupancy rate(%) | ၁ခန်းလျှင် ဝန်ဆောင်ခ နှုန်း | |
|---|---|---|---|---|---|
| | | | | US$ | ကျပ် |
| က | Beach Front Pool Villa | ၁၆ | ၆၀ % | ၂၁၀ | ၂၁၅,၆၇ |
| ခ | Sunset Pool Villa | ၄ | ၆၀ % | ၃၆၀ | ၃၆၉,၇၂ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

အမေရိကန်တစ်ဒေါ်လာ=၁၀၂၇ ကျ

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) | US$ | ညီမျှသော ကျပ်(သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၁၀၄.၃၉ | ၀.၇၄ | ၇၅၅.၇၀ | ၁၈၆၀.၁ |
| (ခ) | အသုံးစရိတ် | ၁၄၀၂.၁၉ | ၀.၀၅ | ၄၄.၄၅ | ၁၅၅၀.၀ |
| (ဂ) | အသားတင်အမြတ် | (၂၉၇.၈၀) | ၀.၆၉ | ၇၁၁.၂၅ | ၃၁၀.၀ |

ကန့်သတ်

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၀၃.၃၆ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၉၃.၀၀ သန်းရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် (၇)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှ ၁၁.၂၃ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-က)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းတို့အတွက် ဆောင်ရွက် မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် နှစ်စဉ်လုပ်ငန်းအသားတင် အမြတ်ငွေ၏ ၂ % အား လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု(CSR)အတွက် သီးသန့်ထား သုံးစွဲ မည်ဖြစ်ကြောင်း အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည် ဖော် ဆောင် ရွက်ရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ် စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA ) ဆောင်ရွက်ရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံများ၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲ တင်ပြရန်နှင့် စီမံချက်တွင် ပါရှိသည့် အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

**( အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား National Engineering & Planning Services Co., Ltd. မှ Third Party အဖြစ်ရေးဆွဲ ပြုစုတင်ပြထားပါသည်။)**

(ခ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်ရမည့် လုပ်ငန်း ဆောင်ရွက်မှုများသည် သာမန်ဆောင်ရွက်သည့် ကိစ္စရပ်များထက် နိုင်ငံတော်၏ အကျိုးစီးပွားကို ပိုမိုထိရောက်စွာ အကောင်အထည်ဖော်နိုင်သည့် လုပ်ငန်းများ ဖြစ်ရန်လိုအပ်သဖြင့် ကုမ္ပဏီမှ အဆိုပြု တင်ပြသည့် Bungalow (၂၀)လုံး၊ အိပ်ခန်း(၂၄)ခန်းကို စီမံကိန်း ပထမအဆင့် အနေဖြင့် အကောင်အထည်ဖော် ဆောင်ရွက်၍ အိပ်ခန်းများ တိုးချဲ့ခြင်း အပါအဝင် ဒုတိယအဆင့်၊ တတိယအဆင့် စီမံကိန်းများ ဆက်လက် ရေးဆွဲသင့်ပါကြောင်း။

(၂) ငှားရမ်းမည့် Beach Front Pool Villa (၁)လုံးလျှင် အမေရိကန်ဒေါ်လာ (၁၇၀)နှင့် Sunset Pool Villa(၁)လုံးလျှင် အမေရိကန်ဒေါ်လာ (၃၀၀)ဟု ဖော်ပြထားပြီး မြန်မာကျပ်ငွေ အနေနှင့် ငှားရမ်းမည်ဆိုပါက ငှားရမ်းခ အမေရိကန်ဒေါ်လာနှင့် တန်ဖိုး ညီမျှသော မြန်မာကျပ်ငွေ ပေါက်ဈေးအတိုင်း တန်ဖိုးသင့် ငှားရမ်းမည် ဖြစ်ကြောင်း ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

(၃) မြေဧက (၉၀၀)အနက် (၆၀)ဧကကိုသာ တည်ဆောက်ရေးအတွက် အသုံးပြုမည် ဖြစ်ပြီး ယင်းအပေါ် မြေအသုံးချခ၊ မြေငှားရမ်းခနှုန်းထားများမှာလည်း အလွန်နည်းပါးလျက်ရှိရာ ဖွံ့ဖြိုးတိုးတက်လာသည့်အခါ ပြန်လည် ပြင်ဆင် သတ်မှတ်နိုင်မည့် အခြေအနေမျိုး စာချုပ်တွင် ထည့်သွင်းဖော်ပြနိုင်မှသာလျှင် ထိုက်သင့်သည့် အကျိုးကျေးဇူးကို ဒေသခံ အစိုးရအဖွဲ့မှ ခံစားရရှိနိုင်မည် ဖြစ်ပါကြောင်း။

(၄) သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများ ထိန်းသိမ်းခြင်း၊ ငါးမျိုးစိတ်များ ထိန်းသိမ်းခြင်း၊ သဘာဝ ပေါက်ပင်များ ထိန်းသိမ်းခြင်းများကို လိုက်နာဆောင်ရွက်မည့် စီမံကိန်း အစီအမံများကို တိကျစွာ ရေးဆွဲဖော်ပြသင့်ပါကြောင်း။

(၅) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁-၁-၂၀၁၅)ရက်စွဲပါ စာဖြင့် ထုတ်ပြန်ထားသည့် အမိန့်ကြော်ငြာစာ (၂/၂၀၁၅) ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန် အချက်များကိုလည်း လေ့လာ၍ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်မည်ဖြစ်ပါကြောင်း တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် တင်ပြထားပါသည်။)**

တန်သတ်

(ဂ) **သတ္တုတွင်းဝန်ကြီးဌာန (နောက်ဆက်တွဲ- ဂ)**

KMOT Co., Ltd. ၏ အဆိုပြုဧရိယာမှာ မြန်မာ့ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေ
လုပ်ငန်း၏ ပုလဲမွေးမြူ ထုတ်လုပ်ရေး ကွင်းစခန်းများနှင့် လွတ်ကင်းမှု ရှိသဖြင့်
ကန့်ကွက်ရန် မရှိသော်လည်း အဆိုပါ အနီးရှိ ဂျလန်းကျွန်း အရှေ့ဘက်ပိုင်း ဧရိယာမျာ
နှင့် နားခိုကျွန်းတို့သည် မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့်ရောင်းဝယ်ရေးလုပ်ငန်းနှင့် အကျိ
တူ ပူးပေါင်းဆောင်ရွက်လျက်ရှိသော အရှေ့တိုင်းပုလဲကုမ္ပဏီ၏ ပုလဲမွေးမြူ လျက်ရှိသော
ဧရိယာများဖြစ်သဖြင့် ပုလဲမွေးမြူခြင်းဆိုင်ရာ လုပ်ငန်းများ ထိခိုက်မှု မရှိစေရန်
ဆောင်ရွက်သင့်ပါကြောင်း။

(ဃ) **ကာကွယ်ရေးဝန်ကြီးဌာန (နောက်ဆက်တွဲ- ဃ)**

KMOT Co., Ltd. ၏ လှိုဏ်ဂူကျွန်း မြေနေရာအား ခွင့်ပြုပါကြောင်း ၊ လုပ်ငန်း ဆောင်
ရွက်မည်ဆိုပါက ရေလမ်းကြောင်း လုံခြုံရေး၊ နိုင်ငံခြားသား ခရီးသွား ဧည့်သည်
လုံခြုံရေး နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့အတွက် ပြည်ထဲရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ
အင်အားဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာန နှင့် ဒေသအာဏာပိုင် အဖွဲ့အစည်းမျာ
အနေဖြင့် တပ်မတော်(ရေ)နှင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

၁၁။ ကျပ်ငွေ အထောက်အထားအဖြစ် KNL Development Co., Ltd. အမည်ဖြင့်
ကမ္ဘောဇဘဏ်တွင် (၂-၆-၂၀၁၅) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် ကျပ် ၂၈၀,၀၀၀,၀၀၀ ရှိကြောင်း
တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Mr. Amnaj Tanaka အမည်ဖြင့်
Bangkok Bank ၌ (၂၉-၁-၂၀၁၄) နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် US$ ၅၂၇၉၇.၃၀ ရှိကြောင်း
တင်ပြထားပါသည်။

၁၂။ အဆိုပြု လုပ်ငန်းအတွက် ခရီးသွားဧည့်သည်များ စိတ်ချမ်းမြေ့စွာ တည်းခိုနားနေနိုင်ရန်အတွက်
လုံခြုံရေး အစီအမံများကို လုပ်ဆောင်သွားမည်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်
အတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ တင်ပြထားပါကြောင်း၊ ကာစီနိုလောင်းကစား လုပ်ငန်း
များ မပြုလုပ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့်
လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့်
ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်း သုံးစွဲမည်
ဖြစ်ပြီး ESIA နှင့် EMP Report တို့အား ရေးဆွဲပြီးဖြစ်ပါကြောင်း၊ ဝန်ထမ်းများ သာယာပျော်ရွှင်စွာ
လုပ်ကိုင်နိုင်ရေး သန့်ရှင်းသပ်ရပ်အောင် ဝတ်စားဆင်ယင်နိုင်ရေး ဆောင်ရွက်ပေးထားပါကြောင်း၊
တင်ပြထားပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူအသုံးပြုနိုင်ခြင်း မရှိသည့်အတွက် ကိုယ်ပိုင်မီးစက်(Generator-150 KVA)ဖြင့် အသုံးပြုသွား မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ကော်မရှင်မှ တနင်္သာရီတိုင်းဒေသကြီးရှိ ကျွန်းများတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်း(၈)ခုအား ခွင့်ပြုမိန့် ထုတ်ပေးထားပြီးဖြစ်ပါသည်။

**ပူးတွဲ**

(ခ) ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၂၀ ရက်နေ့တွင် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီး ဌာန၊ နေပြည်တော်ရှိ နီလာခန်းမ၌ တနင်္သာရီတိုင်းဒေသကြီးရှိ ဒိုမယ်ကျွန်း မြေငှားရမ်း နှင့်စပ်လျဉ်း၍ အစည်းအဝေး ကျင်းပခဲ့ပြီး ယင်းအစည်းအဝေးမှ ညှိနှိုင်းရရှိခဲ့သည့် ငှားရမ်းခနှင့် အသုံးချခနှုန်းထားတို့နှင့်အညီ တွက်ချက်တင်ပြထားပါသည်။

(ဂ) အဆိုပါ ငှားရမ်းခနှုန်းထားများ ပြင်ဆင်သတ်မှတ်ခြင်းအား ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် ကျင်းပသော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၂/၂၀၁၆)သို့ တင်ပြခဲ့ရာ အတည်ပြုပြီး ဖြစ်ပါကြောင်း တနင်္သာရီတိုင်းဒေသကြီး အစိုးရ အဖွဲ့မှ တင်ပြထားပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှ Speed Boat (၂)စီးအား တင်သွင်းလိုကြောင်း တင်ပြ ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စု၊ လှိုက်ဂူကျွန်းရှိ မြေ ဧရိယာ(၉၀၀)ဧကပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြု ပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရ အဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

**တွန်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF - 3711
14 - 8 - 15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၁၈၄၇ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဩဂုတ်လ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3- 747
14/8

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅ - ၇ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၄ / န - ၀၂၉ / ၂၀၁၅ (၅၁၈)

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁% နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး ၊ ကော့သောင်းခရိုင် ၊ စူးငယ်ဘာလိုင်းကျေးရွာအုပ်စု ၊ လိုက်ဏ်ဂူကျွန်းရှိ မြေဧရိယာ ( ၉၀၀ ) ဧကပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကိုအခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့်အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်သည့် အပြင်ပင်လယ်အတွင်း တည်ရှိသည့် ကျွန်းပေါ်တွင် တည်ဆောက်မည်ဖြစ်သဖြင့် သန္တာကျောက်တန်းများ နှင့် အဏ္ဏဝါဇီဝမျိုးစုံ မျိုးကွဲများအား ထိခိုက်မှု ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ KMOT Co., Ltd. မှ လိုက်ဏ်ဂူကျွန်းရှိ မြေဧရိယာ ( ၉၀၀ ) ဧကပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကိုအခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်းတို့အတွက် ဆောင်ရွက်

မည့်လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် နှစ်စဉ်လုပ်ငန်းအသားတင် အမြတ်ငွေ၏ ၂% အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( CSR ) အတွက်သီးသန့်ထား သုံးစွဲမည်ဖြစ်ကြောင်းအပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA) လုပ်ငန်းဆောင်ရွက်ရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံ များ၊ စောင့်ကြည့် လေ့လာမည့်အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင်ပါရှိသည့်အတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ တို့ နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ဆန္ဒ နှင့် သဘောထား များ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၂၄၁၀
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၂၇ ရက်။

MC-643
28-7
NPT-3356
28/7/2015

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3-701
29/7

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅-၇-၂၀၁၅) ရက်စွဲပါစာအမှတ် ရက
၄/ န-၀၂၉/၂၀၁၅(၅၁၉)

30/7

၁။ မြန်မာနိုင်ငံ KNL Development Co.,Ltd မှ (၅၁%) နှင့် ထိုင်းနိုင်ငံ Infinite Creation Co.,Ltdမှ(၄၉%)အချိုးထည့်ဝင်ကာဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co.,Ltd တည်ထောင်ပြီ တနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စု၊ လှိုက်ဂူကျွန်းရှိမြေဧရိယာ (၉၀၀) ဧကပေါ်တွင် BOT စနစ်ဖြင့် သဘာဝကိုအခြေခံသော အပန်းဖြေစခန်းနှင့်ဟိုတယ်လုပ်ငန် ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန် (ခ)ချန်ကျန်စိန် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရ အဖွဲ့မှတစ်ဆင့်အဆိုပြုချက်တင်ပြလာခြင်းအပေါ်သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ယခုအခါတွင် တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိကျွန်းစုများသို့ နိုင်ငံခြားသားဧည့်သည် များစိတ်ဝင်စားမှုများပြားလာကာ နှစ်စဉ်တိုးတက်ဝင်ရောက်လေ့လာလျက်ရှိပြီး၊ ယခုတင်ပြလာသည့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စု၊ လှိုက်ဂူကျွန်းတွင် တည်ဆောက်မည့် ဟိုတယ်စီမံကိန်းသည် ရေရှည်တွင်တိုးတက်ဝင်ရောက်လာမည့် နိုင်ငံခြားသားများ အတွက်အဆင့်မီအိပ်ခန်းများ လုံလောက်မှုရှိစေရန် ဖြည့်ဆည်းဆောင်ရွက်မှုဖြစ်ပြီး ဟိုတယ် တည်ဆောက်မည့်စီမံကိန်းနှင့် ပတ်သက်၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ကို ဆောင်ရွက်ရန် ပြည်ထောင်စု အစိုးရအဖွဲ့မှ စာချုပ်ချုပ်ဆိုခွင့်ပြုပြီးဖြစ်သဖြင့်ကန့်ကွက်ရန်မရှိပါ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်)၊ ၀၁-၆၅၈၃၄၈
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၉/၂၀၁၅( ၅၉၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ် လ ၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ထပ်မံ တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၉-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၅၂၉/၈၃၉/၈-၃၉/အဖရ(တနင်္သာရီ)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅-၇-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၉/၂၀၁၅( ၅၁၈ )

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ) ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်း(၁)ပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ရည်ညွှန်း(၂)ပါ စာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၈) အပိုဒ် ၄၉ အရ အဆိုပြုလွှာကို လက်ခံရရှိသည့် အချိန်မှစ၍ ရက်ပေါင်း(၉၀)အတွင်း ခွင့်ပြုမိန့်ကို ထုတ်ပေးရမည်ဖြစ်ပါသဖြင့် ကော်မရှင် အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် ထပ်မံ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၄ ရက်

အကြောင်းအရာ။ **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်း ဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ သဘောထား မှတ်ချက် ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ထပ်မံ၍ နှိုးဆော်စာထုတ်ပြန်မည့် **စာချော** အား တင်ပြအပ်ပါသည်။

(ဝင်းမို့မို့အေး)

ဦးစီးအရာရှိ

**လ/ထ-ညွှန်မှူး**

၃။ KMOT Co., Ltd. ၏ ဟိုတယ်လုပ်ငန်း ... ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားတောင်းခံသည့် စာချော အား တင်ပြအပ်ပါသည်။

(သန်းသန်းဦး)

ညွှန်ကြားရေးမှူး

၄။ သဘောထား တောင်းခံသည့် စာချော အား ... ပြန်ကြားလာမှုမရှိ၍ ... တင်ပြအပ်ပါသည်။

သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၃ ရက်

အကြောင်းအရာ။ **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ သဘောထားမှတ်ချက်အား သက်ဆိုင်ရာ သို့ သိရှိနိုင်ရန် အကြောင်းကြားမည့် **စာချော** အား တင်ပြအပ်ပါသည်။

3/8/15

(ဝင်းမို့မို့အေး)

ဦးစီးအရာရှိ

**လ/ထ-ညွှန်မှူး**

၃။ [illegible]

(သန်းသန်းဦး) 3/8

[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၉/၂၀၁၅(၅၈၁ – က)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ် လ ၄ ရက်

သို့

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၉-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၅၂၉/၈၃၉/စ-၃၉/အဖရ(တနင်္သာရီ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၂၉/၂၀၁၅(၅၁၉)

(၃) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ (၂၇-၇-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၂၄၁၀

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာ၀ကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ) ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်း(၁)ပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ ရည်ညွှန်း(၂)ပါ စာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ ရည်ညွှန်း(၃)ပါ စာဖြင့် အောက်ဖော်ပြပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်ရမည့် လုပ်ငန်း ဆောင်ရွက်မှုများသည် သာမန်ဆောင်ရွက်သည့် ကိစ္စရပ်များထက် နိုင်ငံတော်၏ အကျိုးစီးပွားကို ပိုမိုထိရောက်စွာ အကောင်အထည်ဖော်နိုင်သည့် လုပ်ငန်းများ ဖြစ်ရန် လိုအပ်သဖြင့် ကုမ္ပဏီမှ အဆိုပြု တင်ပြသည့် Bungalow (၂၀)လုံး၊ အိပ်ခန်း(၂၄) ခန်းကို စီမံကိန်း ပထမအဆင့် အနေဖြင့် အကောင်အထည်ဖော် ဆောင်ရွက်၍ အိပ်ခန်းများ တိုးချဲ့ခြင်း အပါအ၀င် ဒုတိယအဆင့်၊ တတိယအဆင့် စီမံကိန်းများ ဆက်လက် ရေးဆွဲသင့်ပါကြောင်း။

(ခ) ငှားရမ်းမည့် Beach Front Pool Villa (၁)လုံးလျှင် အမေရိကန်ဒေါ်လာ (၁၇၀)နှ
Sunset Pool Villa(၁)လုံးလျှင် အမေရိကန်ဒေါ်လာ (၃၀၀)ဟု ဖော်ပြထားပြ
မြန်မာကျပ်ငွေ အနေနှင့် ငှားရမ်းမည်ဆိုပါက ငှားရမ်းခ အမေရိကန်ဒေါ်လာနှ
တန်ဖိုး ညီမျှသော မြန်မာကျပ်ငွေ ပေါက်ဈေးအတိုင်း တန်ဖိုးသင့် ငှားရမ်းမည
ဖြစ်ကြောင်း ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည
ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်
ကြောင်း။

(ဂ) မြေဧက (၉၀၀)အနက် (၆၀)ဧကကိုသာ တည်ဆောက်ရေးအတွက် အသုံးပြုမည်
ဖြစ်ပြီး ယင်းအပေါ် မြေအသုံးချခ၊ မြေငှားရမ်းခနှုန်းထားများမှာလည်း အလွန်
နည်းပါး လျက်ရှိရာ ဖွံ့ဖြိုးတိုးတက်လာသည့်အခါ ပြန်လည် ပြင်ဆင် သတ်မှတ်
နိုင်မည့် အခြေအနေမျိုး စာချုပ်တွင် ထည့်သွင်းဖော်ပြနိုင်မှသာလျှင် ထိုက်သင့်သည့်
အကျိုးကျေးဇူးကို ဒေသခံ အစိုးရအဖွဲ့မှ ခံစားရရှိနိုင်မည် ဖြစ်ပါကြောင်း။

(ဃ) သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းခြင်းဆိုင်ရာ သန္တာကျောက်တန်းများ ထိန်းသိမ်းခြင်း၊
ငါးမျိုးစိတ်များ ထိန်းသိမ်းခြင်း၊ သဘာဝ ပေါက်ပင်များ ထိန်းသိမ်းခြင်းများကို
လိုက်နာ ဆောင်ရွက်မည့် စီမံကိန်း အစီအမံများကို တိကျစွာ ရေးဆွဲဖော်ပြသင့်
ပါကြောင်း။

(င) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁-၁-၂၀၁၅)ရက်စွဲပါ စာဖြင့်
ထုတ်ပြန်ထားသည့် အမိန့်ကြော်ငြာစာ (၂/၂၀၁၅) ကမ်းခြေခရီးစဉ်ဒေသ ရေရှည်
တည်တံ့ ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန် အချက်များကိုလည်း လေ့လာ၍
လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ဟိုတယ်နှင့် ခရီးသွား
လာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များ
အား ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

KMOT Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၉/၂၀၁၅(၅၁၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၅ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၉-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၅၂၉/၈၃၉/၈-၃၉/အဖရ(တနင်္သာရီ)

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ) ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆)၊ အပိုဒ်(၄၃)နှင့် (၄၅)ပါ ပြဋ္ဌာန်းချက် နှင့် အညီ အဆိုပြုချက်ကို ကော်မရှင်က စိစစ်ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်း ရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏ သဘောထားကို တောင်းခံရန်လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် Villas တည်ဆောက်ခြင်းအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့် အချက်များ အပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဦးကြင်စိန် ဖုန်းနံပါတ် ၀၉-၅၁၈၀၁၂၈၂ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၃၄၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၉/၂၀၁၅( ၅၁၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၅ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၉-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၅၂၉/၈၃၉/၈-၃၉/အဖရ(တနင်္သာရီ)

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုက်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ) ချန်ကျန်စိန်မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက်များ တင်ပြလာပါသည်။

၂။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆)၊ အပိုဒ်(၄၃)ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ အောက်ပါ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးကြင်စိန် ဖုန်းနံပါတ် ၀၉-၅၁၈၀၁၂၈၂ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုလွှာ (တစ်)စောင် အား ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ဝန်ဆောင်ခ နှုန်းထားများ တင်ပြထားမှုများသည် ဆီလျော်မှု ရှိ-မရှိ ။

(ခ) ဖော်ပြပါ အဆိုပြုချက်နှင့်ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားနှင့် အကြံပြုချက် ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

KMOT Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၄ ရက်

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ)ချန်ကျန်စိန် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန တို့ထံသို့ သဘော ထားများ တောင်းခံမည့် **စာချော (၂)စောင်**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | 14/7/15 | 14/7 |
| အမည် | ဒေါ်ဝင်းမို့မို့အေး | ဒေါ်သန်းသန်းနု |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |
| ဌာနခွဲ | ရင်းနှီး(၃) | ရင်းနှီး(၃) |

**ညွှန်ကြားရေးမှူး**

၃။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၃၅၉ /၈၃၉ /၈-၃၉/အဖရ(တနင်္သာရီ
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ ဖွန်လ ၂၉ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltdတို့အကြားချုပ်ဆို မည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မြန်မာ/အင်္ဂလိပ်ဘာသာ (မူကြမ်း)နှင့် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချု (မြန်မာ/အင်္ဂလိပ်ဘာသာ)(မူကြမ်း)များအား စိစစ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၅.၃.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၄၆ ၂၅၇/ အဖရ(၆/၂၀၁၅)

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ (၁၁.၆.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၂(၅ ၃ - ၇၉ / နပတ (၅၄၃)

(၃) KMOT Co.,Ltd ၏ (၂၅.၆.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၅၂-က စီမံကိန်း / ၂၀၁၅

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လိုဏ်ဂူ ကျွန်း၊ မြေဧရိယာ(၉၀၀)ဧကပေါ်တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သဘာဝကိုအခြေခံ သောအပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများဆောင်ရွက်ရန်တင်ပြလာမှုအပေါ် ပြည်ထောင်စု အစိုးရအဖွဲ့ရုံးသို့တင်ပြခဲ့ရာ (၁၀.၃.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရ အဖွဲ့အစည်းအဝေးအမှတ်စဉ်(၆/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၆)အရ သဘောတူကြောင်း အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာ အုပ်စုရှိ လိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧကပေါ်တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ သဘာဝကိုအခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်များနှင့်အညီပြင်ဆင်ထားပြီးသော တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာ

သဘောတူစာချုပ်(မြန်မာ/အင်္ဂလိပ်ဘာသာ)(မူကြမ်း)၊တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရ
သဘောတူစာချုပ်(မြန်မာ/အင်္ဂလိပ်ဘာသာ)(မူကြမ်း)များနှင့် KMOT Co.,Ltd၏ အဆိုပြုလွှာ
အား ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

**ပူးတွဲပါ** - တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) (မြန်မာ/အင်္ဂလိပ်ဘာသာ) } (၃) အုပ်စီ
မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)(မြန်မာ/အင်္ဂလိပ်ဘာသာ)
KMOT Co.,Ltd၏ အဆိုပြုလွှာ (၁) အုပ်

ဝန်ကြီးချုပ်(ကိုယ်စား
( အောင်ကျော်ကျော်ဦး၊ စည်ပင်သာယာရေးဝန်ကြီး

မိတ္တူကို
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
KMOT Co.,Ltd ၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၄၆/ ၂၅၇ / အဖရ (၆/၂၀၁၅)၊
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၂၅ ရက်၊

အ မှာ စာ

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များအပေါ် စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြခြင်း။**

၁။ ၂၀၁၅ ခုနှစ်၊ မတ်လ ၁၀ ရက် (အင်္ဂါ)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၅) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန်ဖြစ်ပါသည်။

ဇော်သန်းသင်း
အတွင်းရေးမှူး

**<u>ဝန်ကြီးချုပ်</u>**
**<u>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့</u>**

၄၆။ <u>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co.,Ltd. တို့အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များအပေါ် စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြခြင်း။</u>

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ်၊ မတ်လ ၃ ရက် နေ့စွဲပါအမှာစာ အမှတ်၊ ၈၃၇/ ၈-၃၇/ အဖရ(တနင်္သာရီ)။ အမှာစာကို သဘောတူကြသည်။

<u>ဆောင်ရွက်ရန်၊</u>
<u>တနင်္သာရီတိုင်းဒေသ</u>
<u>အစိုးရအဖွဲ့။</u>

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၇၉ /နပတ(၅၄၃)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၁ ရက်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) (မြန်မာ-အင်္ဂလိပ်) များအပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) တိုင်းဒေသကြီးအစိုးရအဖွဲ့၊တနင်္သာရီတိုင်းဒေသကြီး၏ ၄-၅-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂၅၆၈ / ၈၃၉ / ၈-၃၉/ အဖရ (တနင်္သာရီ)

(၂) တိုင်းဒေသကြီးအစိုးရအဖွဲ့၊တနင်္သာရီတိုင်းဒေသကြီး၏ ၁၇-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၆၆၁၂/ ၇၂၈ /၇-၂၈/ အဖရ (တနင်္သာရီ)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂-၁၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂(၅) ၃-၁၅၈ /နပတ (၁၀၁၅)

၁။ KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့ပူးပေါင်းဖွဲ့စည်းထားသော KMOT Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧကပေါ်တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အပန်းဖြေစခန်းနှင့်ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co., Ltd တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း) နှင့်

တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) (မြန်မာ/ အင်္ဂလိပ်) တို့အပေါ် ဥပဒေအကြံပြုချက်များပေးနိုင်ပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့က ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါ စာချုပ်(မူကြမ်း)များနှင့်စပ်လျဉ်း၍ မြန်မာဘာသာဖြင့် ပြုစုထားသော မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)တို့အား တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့က ရည်ညွှန်းချက်(၂)ပါ စာဖြင့် ဥပဒေအကြံပြုချက်များ တောင်းခံလာ၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စိစစ်ပြီး ရည်ညွှန်းချက်(၃)ပါစာဖြင့် ပြန်ကြားပြီးခဲ့ပါ သည်။

၃။ ယခုအခါ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သည် ရည်ညွှန်းချက်(၁)ပါစာ၌ "KMOT Co.,Ltd သည် KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း" ဟု ဖော်ပြလျက် (မြန်မာ-အင်္ဂလိပ်) ၂ ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း)များကို ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံပေးပို့၍ ဥပဒေအကြံပြုချက်ထပ်မံတောင်းခံလာခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၄။ သို့ပါ၍ အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း) ၂ ရပ်အနက် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (B.O.T Contract) (မူကြမ်း) အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ရည်ညွှန်းချက်(၁)ပါစာ၌ ဖော်ပြချက်အရ KMOT Co.,Ltd သည် မြန်မာကုမ္ပဏီဖြစ်သော KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်သည်ဆိုသော အချက်အား စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အား Owner ဟုလည်းကောင်း၊ KMOT Co., Ltd အား Contractor ဟုလည်းကောင်း ရည်ညွှန်းမည်ဟု ဖော်ပြထားပြီးဖြစ်သောကြောင့် Who grants Permit, Who is granted permit ဆိုသောစကားရပ်တို့ ထည့်သွင်းဖော်ပြရန်မလိုအပ်တော့ပါ။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ၌ အဆိုပါစကားရပ်များအား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၌ ရည်ရွယ်ချက်အပိုဒ်မပါရှိ၍ စာချုပ်ဝင်စာပိုဒ်အောက်တွင် ရည်ရွယ်ချက်ဟူသော ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ၊ အပိုဒ်ခွဲ 1.1 ၌ မြေပုံအား နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟုလည်းကောင်း၊ အပိုဒ်ခွဲ 4.4 ၌ detail project plan အား နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟုလည်းကောင်း ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၌ အဆိုပါနောက်ဆက်တွဲ များ ပူးတွဲပါရှိလာခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ နောက်ဆက်တွဲများ သည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သောကြောင့် စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက်တွဲများပြည့်စုံစွာ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် မြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနက တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)၌ B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်မည့်တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 3 Warranty and Representation တွင် ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသည့်

အတိုင်း မင်နီဖြင့် ဖြည့်စွက်ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် 4 Define Land Lease Period, Define Contract Validate and Contract Extension ၊ အပိုဒ်ခွဲ 4.2 ၌ စာချုပ်သက်တမ်းနှင့် မြေငှားရမ်းခြင်းကာလတို့ကို ရောထွေးစွာဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ စာချုပ်သက်တမ်းသည် မည်သည့်နေ့ရက်မှစတင်ကြောင်းနှင့် နှစ်ပေါင်းမည်မျှဖြစ်ကြောင်း၊ စာချုပ်သက်တမ်းအား တစ်ကြိမ်လျှင် နှစ်မည်မျှဖြင့် အကြိမ်ရေမည်မျှအထိ တိုးမြှင့်နိုင်ကြောင်း၊ စာချုပ်သက်တမ်း တိုးမြှင့်ရာ၌ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အချိန်ကာလမည်မျှ ကြိုတင်၍တင်ပြရမည်ဖြစ်ကြောင်းနှင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏သဘောတူညီမှုရရှိမှသာ စာချုပ်သက်တမ်းတိုးမြှင့်နိုင်ကြောင်း စသည်ဖြင့် စာချုပ်သက်တမ်းအား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန်ဖြစ်ပါသည်။ ထို့အတူ မြေငှားရမ်းခြင်းကာလကိုလည်း စာချုပ်သက်တမ်းကဲ့သို့ ဖော်ပြရန်ဖြစ်ပါသည်။ စာချုပ်သက်တမ်းနှင့်မြေငှားရမ်းခြင်းကာလတို့ ကိုက်ညီရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် 4 ၊ အပိုဒ်ခွဲ 4-2 ၏ နောက်ဆုံးဝါကျ၌ ဖော်ပြထားသော "----------, it has right to requisition for approval of two additional 10 (ten) year terms extentions." ဆိုသောအချက်မှာ ရှင်းလင်းမှုမရှိသဖြင့် ရှင်းလင်းစွာ ဖော်ပြရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် 5 Payment of Land Use Premium and Annual Rent ၊ အပိုဒ်ခွဲ 5.1 ၌ ဖော်ပြပါရှိသည့် မြေငှားဧရိယာအတွက် မြေအသုံးချမှုအာမခံကြေး အမေရိကန်ဒေါ်လာ(၂၉,၇၀၀) သည် စာချုပ်ပါ လုပ်ငန်းအတွက် သင့်လျော်သည့်ပမာဏဖြစ် မဖြစ် ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါသည်။ ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် မြေအသုံးချမှုအာမခံကြေး

ကို အငှားချထားသူသို့ပေးသွင်းရန် ဖော်ပြထားရာ ထိုသို့ပေးသွင်းခြင်း မပြုပါက မည်သို့ဆောင်ရွက် မည်ဆိုသည့် စည်းကမ်းချက်ကို ထည့်သွင်း ဖော်ပြသင့်ပါသည်။ ထို့ပြင် ဘဏ်စာရင်းနံပါတ်အား ကွက်လပ်ဖြင့်ဖော်ပြ ထားရာ စာချုပ်ချုပ်ဆိုချိန်တွင် ဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5.2 ၌ တစ်နှစ်စာငှားရမ်းခအဖြစ် အမေရိကန် ဒေါ်လာဖြင့် (10756) ပေးသွင်းရန်သဘောတူကြောင်း ဖော်ပြထားရာ စာချုပ်ပါ မြေကေများအတွက် သင့်လျော်သည့် ငှားရမ်းခဖြစ် မဖြစ် ဌာနမှပြန်လည် စိစစ်ရန်ဖြစ်ပါသည်။ အပိုဒ်ခွဲ ၅-၆ တွင် မြေငှားရမ်းခ ပေးသွင်းမှုနောက်ကျ ပါ က နောက်ကျကြေးအဖြစ် တစ်ရက်လျှင် အမေရိကန်ဒေါ်လာ ၅၀ ပေးရန် ဖော်ပြရာ စာချုပ်ပါလုပ်ငန်းအတွက် သင့်လျော်သည့်ပမာဏဖြစ် မဖြစ် ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5-2 ၊ 5-3 နှင့် 5-4 တို့၌ နှစ်စဉ်ငှားရမ်းခအား အမေ ရိကန်ဒေါ်လာဖြင့် ပေးချေရန်ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း) အပိုဒ် 5-7 ၌ နှစ်စဉ်ငှားရမ်းခကို အမေရိကန်ဒေါ်လာအစား ငွေလဲလှယ်မှုဈေး နှုန်းအတိုင်း မြန်မာကျပ်ငွေဖြင့်လည်း ပေးချေရန် နှစ်ဖက်သဘောတူကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့ မြေငှားရမ်းခကို အမေရိကန် ဒေါ်လာဖြင့် တွက်ချက်ထားပြီးနောက် မြန်မာကျပ်ငွေဖြင့်လည်း ပေးချေနိုင် ကြောင်း ဖော်ပြချက်နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင် ရွက်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 5-4 နှင့် 1-3 တို့၌ ဟိုတယ်တရားဝင်ဖွင့်လှစ်သည့် နေ့ဟု ဖော်ပြပြီး အပိုဒ်ခွဲ 5-8 ၊ အပိုဒ်ခွဲ 9-1 နှင့် အပိုဒ်ခွဲ 9-2 တို့၌ ဟိုတယ် လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်ရက်နေ့ဟု ဖော်ပြထား သဖြင့် အခမ်းအနားဖွင့်ဆိုချက်မှာ official opening ဟုဖော်ပြထားရာ

တရားဝင်ဖွင့်လှစ်သည့်နေ့နှင့် စတင်ဖွင့်လှစ်သည့်နေ့တို့သည် တစ်ရက်တည်း
ဖြစ် မဖြစ် ရှင်းလင်းမှုမရှိပါ။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့အပြင်
အပိုဒ်ခွဲ 5-8 နှင့် 7-3 တို့၌ ဖော်ပြထားသော "specified period." သည်
မည်သည့်အချိန်ကာလကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ ။ construction
period ကိုဆိုလိုခြင်းဖြစ်ပါက specified period အစား construction
period ဟုရေးသားသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ပြီး ရှင်းလင်းစွာ
ဖော်ပြရန်လိုအပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် 6 Construction Period ၊ အပိုဒ်ခွဲ 6-1 ၌ ရေးသာ
ဖော်ပြချက်မှာ မည်သည်ကိုဆိုလိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိသဖြ
ရှင်းလင်းစွာဖော်ပြရန်ဖြစ်ပါသည်။ ထို့အပြင် သတ်မှတ်ထားသော တည်ဆော
ရေးကာလအတွင်း တည်ဆောက်မှုကာလမပြီးစီးပါက မည်သို့ဆောင်ရွ
မည်ဆိုသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် 8 Contractor' s Responsibilities ၊ အပိုဒ်ခွဲ 8-3
"အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ----------- လုပ်ကိုင်ဆောင်ရွက်ခြင်းမ
ရ။" ဟုဖော်ပြပြီး ၎င်းစာကြောင်း၏ နောက် တွင် "(သို့မဟုတ်) အငှားချထား
ထံမှ ------------- ကြိုတင်ခွင့်ပြုချက်-------ဆောင်ရွက်ရမည် ( or get pri
written approved by Owner)"ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသ
စည်းကမ်းချက်နှစ်ရပ်မှာ ရှေ့နောက်ညီညွတ်မှုမရှိ၍ "or get prior writ
approved by Owner" ဟူသော စည်းကမ်းချက်အား ထည့်သွင်းရန်မသင့်
သဘောရရှိပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8-4 ၌ Contractor (ကုမ္ပဏီ)သည် ငှားရမ်းကာ
အတွင်း အဆောက်အအုံများတိုးချဲ့ရန်၊ အရံထားမြေကို အသုံးပြုရန်
ဆောင်ရွက်မှုများပြောင်းလဲရန် ဆန္ဒရှိပါက Owner (ဌာန)သို့ စီမံချက်ကြို

လှို့ဝှက်

တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ဌာနသို့ ကြိုတင်တင်ပြရမည့်ကာလကို သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာန၏ ခွင့်ပြုချက်ရရှိမှသာဆောင်ရွက်ရမည်ဟု ထည့်သွင်းရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 8-6 ၌ Contractor (ကုမ္ပဏီ)သည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ ရင်းနှီးမြှုပ်နှံခြင်း၊ ချေးငွေရယူခြင်းများအတွက် Owner (ဌာန)သို့ နို့တစ်စာပေးမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ နို့တစ်စာကြိုတင်ပေးပို့ရမည့်ကာလကို ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် အဆိုပါအချက်၌ "Owner (ဌာန) သို့ နို့တစ်စာပေးပြီး ဌာန၏အတည်ပြုချက်ရရှိမှသာ ဆောင်ရွက်ရမည်" ဆိုသောအချက်အား ထည့်သွင်းဖော်ပြသင့်သည်ဟု ယူဆပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် 9 Operation and Management ၊ အပိုဒ်ခွဲ 9-3 ၌ အဆောက်အဦပုံစံပြောင်းလဲခြင်း၊ အပန်းဖြေရိပ်သာနှင့် ဟိုတယ်တည်ဆောက်ခြင်းများ တိုးချဲ့သည့်ကိစ္စရပ်၌ တိုးချဲ့သည့်အစိတ်အပိုင်းများ၊ ပစ္စည်းကိရိယာများကို တွက်ချက်၍ Owner (ဌာန)နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ယင်းစည်းကမ်းချက်၌ Owner (ဌာန)နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ တင်ပြပြီး အတည်ပြုချက်များရရှိမှသာ ဆောင်ရွက်ရမည်ဟု ဖော်ပြသင့်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 10 Force Majeure ၊ အပိုဒ်ခွဲ 10-2 နှင့် 10-3 တို့၌ ဖော်ပြထားချက်များသည် အရေးအသားပြေပြစ်မှုမရှိခြင်းကြောင့် အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော စည်းကမ်းချက်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါ သည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် 13 Transfer of the Land and Buildings အပိုဒ်ခွဲ 13-1 ၌ ငှားရမ်းမြေကို ပြန်လည်လွှဲပြောင်းပေးရာ၌ ကောင်းမွန်သော

အနေအထားဖြင့် ငှားရမ်းကာလကုန်ဆုံးပြီးနောက် ရက်ပေါင်း (၃၀)အတွင်း လွှဲပြောင်းပေးရမည်ဟု ဖော်ပြထားပါသည်။ B.O.T စနစ်အရ အဖိုးစားနား တစ်စုံတစ်ရာမပါဘဲ ပြန်လည်လွှဲပြောင်းလေ့ရှိပါသည်။ သို့ပါ၍ အဆိုပါ စည်းကမ်းချက်၌ "without any consideration" ဟူသော စာသားအား မင်နီဖြင့်ဖြည့်စွက်ပေးလိုက်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 13-2 ၌ ငှားရမ်းကာလကုန်ဆုံးသည့်အခါ သို့မဟုတ် စာချုပ်ရပ်စဲသည့်အခါ ပစ္စည်းကိရိယာများအပါအဝင် တပ်ဆင်ထားသော ပစ္စည်းများကို တစ်စုံတစ်ရာပေးချေမှုမရှိဘဲ လွှဲပြောင်းပေးရမည်ဟု ဖော်ပြ ထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါစည်းကမ်းချက်၌ ငှားရမ်းကာလ သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးပြီး ရက်ပေါင်းမည်မျှအတွင်း ပြန်လည် လွှဲပြောင်းပေးရမည်၊ သို့မဟုတ် စာချုပ်ရပ်စဲပြီးရက်ပေါင်းမည်မျှအတွင်း ပြန်လည်လွှဲပြောင်းပေးရမည်ဆိုသောအချက်မပါရှိ၍ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ ပြန်လည်လွှဲပြောင်းပေးရာ၌ မြေနှင့် အဆောက်အဦများကို တစ်ပြိုင်နက်တည်းပြန်လည်လွှဲပြောင်းသင့်သည်ဟု သဘောရရှိပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ် 14 Right of Re-entry to the Land and Buildings နှင့်စပ်လျဉ်း၍ အလားတူ B.O.T စာချုပ်များတွင် ဖော်ပြလေ့ရှိ သောစည်းကမ်းချက်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက် နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်တစ်ခုဖြစ်သော အရေးကြီးသည့်စည်း ကမ်းချက်လည်းဖြစ်သော စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်များဖြစ်သော Governing Law နှင့် Renegatiation တို့မပါရှိ၍ Slip ကပ်ပေးလိုက်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစာပိုဒ်တစ်ခုဖြစ်သော စာချုပ်ရပ်စဲခြင်း စည်းကမ်းချက်မပါရှိ၍ စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းပြီး ဖော်ပြရန်ဖြစ်ပါသည်၊

(မ) စာချုပ်(မူကြမ်း)၌ လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) ရယူရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(ယ) Lease Agreement (မူကြမ်း) အပိုဒ်ခွဲ 13-1(f) ၌ BOT Contract ရပ်စဲခဲ့ပါ က Lease Agreement သည် BOT Contract ၏ တစ်စိတ်တစ်ဒေသ ဖြစ်သောကြောင့် Lease Agreement သည်အလိုအလျောက်ရပ်စဲမည်ဆို သောအချက်အား ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သို့သော် ယခု BOT Contract (မူကြမ်း)၌ Lease Agreement သည် BOT Contract ၏ တစ်စိတ်တစ်ဒေသဖြစ်သည်ဆိုသောအချက်အား ဖော်ပြထားခြင်းမရှိ၍ ဖော်ပြ ရန်လိုအပ်ပါသည်၊

(ရ) စာချုပ်(မူကြမ်း)၌ ပူးတွဲထားသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသများအဖြစ် မှတ်ယူရမည်ဆိုသောအချက်အား မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(လ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၅။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပေးပို့လာသော အင်္ဂလိပ်ဘာသာဖြင့် ပြုစုထား သည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (Lease Agreement) (မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ရည်ညွှန်းချက်(၁)ပါစာ၌ ဖော်ပြချက်အရ KMOT Co.,Ltd သည် မြန်မာ ကုမ္ပဏီဖြစ်သော KNL Co., Ltd နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd တို့ ပူးပေါင်းဖွဲ့စည်းထားသည့် ဖက်စပ်ကုမ္ပဏီဖြစ်သည်ဆိုသော အချက်အား စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ ထည့်သွင်းဖော်ပြရန် လိုအပ် ပါသည်၊

သို့/၄က်

(ခ) စာချုပ်(မူကြမ်း)စာချုပ်ဝင်စာပိုဒ်၌ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အား Owner ဟုလည်းကောင်း၊ KMOT Co., Ltd အား Contractor ဟုလည်းကောင်း ရည်ညွှန်းမည်ဟု ဖော်ပြထားပြီးဖြစ်သောကြောင့် Who grants Permit, Who is granted permit ဆိုသောစကားရပ်တို့ ထည့်သွင်းဖော်ပြရန်မလိုအပ်တော့ပါ။ သို့ပါ၍ စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များ၌ အဆိုပါစကားရပ်များအား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၌ ရည်ရွယ်ချက်အပိုဒ်မပါရှိ၍ စာချုပ်ဝင်စာပိုဒ်အောက်တွင် ရည်ရွယ်ချက်ဟူသော ခေါင်းစဉ်ဖြင့် သီးခြားဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 1 Definitions ၊ အပိုဒ်ခွဲ 1.1 ၌ မြေပုံအား နောက်ဆက်တွဲတွင် ပူးတွဲထားသည်ဟု ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၌ အဆိုပါနောက်ဆက်တွဲ ပူးတွဲပါရှိလာခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေဖြစ်သောကြောင့် စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက်တွဲများပြည့်စုံစွာ ပူးတွဲဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနက တရားဝင်ရေးဆွဲသောမြေပုံဖြစ်ရန် လိုအပ်ပါ သည်၊

(င) စာချုပ်(မူကြမ်း)၌ ငှားရမ်းမည့်မြေ၏တည်နေရာ၊ အကျယ်အဝန်း၊ လိပ်စာအပြည့်အစုံတို့အား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 2 Warranty and Representation တွင် ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသည့်အတိုင်း မင်နီဖြင့် ဖြည့်စွက်ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် 3 Define Land Lease Period and Development ၊ အပိုဒ်ခွဲ 3-2 ၌ မြေငှားရမ်းခြင်းကာလသက်တမ်းတိုးမြှ

လျှို့ဝှက်

ခြင်းကို ဖော်ပြထားချက်မှာ ရှင်းလင်းမှုမရှိပါ။ ရှင်းလင်းစွာ ဖော်ပြရန် လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် 4 Payment of Land Use Premium and Annual Rent ၊ အပိုဒ်ခွဲ 4-1 ၌ မြေငှားဧရိယာအတွက် မြေအသုံးချမှုအာမခံ ကြေးအမေရိကန်ဒေါ်လာ (၂၉,၇၀၀) ပေးသွင်းခြင်းနှင့်စပ်လျဉ်း၍ အထက် အပိုဒ် ၄(ဈ)ပါ အကြံပြုချက်ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-2 ၌ တစ်နှစ်စာငှားရမ်းခအဖြစ် အမေရိကန် ဒေါ်လာငွေဖြင့် (10756) ပေးသွင်းရန်သဘောတူကြောင်း ဖော်ပြထားခြင်းနှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄(ည)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-4 ၌ နှစ်စဉ်ငှားရမ်းခအား အမေ ရိကန်ဒေါ်လာဖြင့် ပေးချေရန်ဖော်ပြထားပြီး စာချုပ်(မူကြမ်း) အပိုဒ် 5-7 ၌ နှစ်စဉ်ငှားရမ်းခကို အမေရိကန်ဒေါ်လာအစား ငွေလဲလှယ်မှုဈေးနှုန်းအတိုင်း မြန်မာကျပ်ငွေဖြင့် လည်းပေးချေရန် နှစ်ဖက်သဘောတူကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါ သည်။ ထိုသို့ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဋ)ပါ အတိုင်း အကြံပြုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 4-4 နှင့် 1-3 တို့၌ ဟိုတယ်တရားဝင်ဖွင့်လှစ်သည့် နေ့ဟု ဖော်ပြပြီး အပိုဒ်ခွဲ 4-8 ၊ အပိုဒ်ခွဲ 8-1 နှင့် အပိုဒ်ခွဲ 8-2 တို့၌ ဟိုတယ် လုပ်ငန်းနှင့် အပန်းဖြေစခန်းများ စတင်ဖွင့်လှစ်သည့်ရက်နေ့ဟု ဖော်ပြထားရ ထိုသို့ဖော်ပြထားချက်များနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဌ)ပါအတိုင်း အကြံ ပြုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် 5 Construction Period ၊ အပိုဒ်ခွဲ 5-1 ၌ ရေးသာ ဖော်ပြချက်မှာ မည်သည်ကိုဆိုလိုခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိသဖြ ရှင်းလင်းစွာဖော်ပြရန်ဖြစ်ပါသည်။ ထို့အပြင် သတ်မှတ်ထားသော တည်ဆောက

ရေးကာလအတွင်း တည်ဆောက်ရေးကာလမပြီးစီးပါက မည်သို့ဆောင်ရွက်မည် ဆိုသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် 7 Contractor's Responsibilities ၊ အပိုဒ်ခွဲ 7-3 ၌ "အခြားသောလုပ်ငန်းတစ်စုံတစ်ရာကို ----------- လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။" ဟုဖော်ပြပြီး ၎င်းစာကြောင်း၏ နောက် တွင် "(သို့မဟုတ်) အငှားချထားသူထံမှ ------------- ကြိုတင်ခွင့်ပြုချက်-------ဆောင်ရွက်ရမည် (or get prior written approved by Owner.)" ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ထိုသို့ဖော်ပြထားချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဃ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7-4 ၌ Contractor (ကုမ္ပဏီ)သည် ငှားရမ်းကာလအတွင်း အဆောက်အအုံများတိုးချဲ့ရန်၊ အရံထားမြေကို အသုံးပြုရန်နှင့် ဆောင်ရွက်မှုများပြောင်းလဲရန် ဆန္ဒရှိပါက Owner (ဌာန)သို့ ကြိုတင်စီမံချက်ကြိုတင်တင်ပြရမည်ဟု ဖော်ပြထားပါသည်။ ထိုသို့ဖော်ပြထားချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဏ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7-6 ၌ Contractor (ကုမ္ပဏီ)သည် ရင်းနှီးမြှုပ်နှံမှုတိုးချဲ့ခြင်း၊ ရင်းနှီးမြှုပ်နှံခြင်း၊ ချေးငွေရယူခြင်းများအတွက် Owner (ဌာန)သို့ နို့တစ်စာပေးမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ ထိုသို့ဖော်ပြထားချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄(တ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် 9 Force Majeure ၊ အပိုဒ်ခွဲ 9-2 နှင့် 9-3 တို့၌ ဖော်ပြထားချက်များသည် အရေးအသားပြေပြစ်မှုမရှိခြင်းကြောင့် အလားတူ စာချုပ်များတွင် အသုံးပြုလေ့ရှိသော စည်းကမ်းချက်အား Slip ကပ်ပေးလိုက် ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစ်ရန်ဖြစ်ပါ သည်၊

**(ထ)** စာချုပ်(မူကြမ်း) အပိုဒ် 13 Termination of the Contract ၊ အပိုဒ်ခွဲ 13-1(f) ၌ Lease Agreement သည် B.O.T Contarct ၏ တစ်စိတ်တစ်ဒေသဖြစ်သောကြောင့် B.O.T Contarct ရပ်စဲခဲ့ပါက Lease Agreement သည်လည်း အလိုအလျောက်ရပ်စဲမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ Lease Agreement သည် B.O.T Contarct ၏ တစ်စိတ်တစ်ဒေသဖြစ်သည် ဆိုသောအချက်အား B.O.T Contarct ၌ ဖော်ပြထားခြင်းမရှိသဖြင့် ဖော်ပြရန် လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 15 Right of Re-entry to the Land and Buildings နှင့်စပ်လျဉ်း၍ အလားတူမြေငှားစာချုပ်များတွင် ဖော်ပြလေ့ရှိသောစည်းကမ်းချက်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိမရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)၌ စာချုပ်တစ်ခု၌ အရေးကြီးသောဥပဒေရေးရာ စည်းကမ်းချက် ၂ ခုဖြစ်သည့် စာချုပ်သက်တမ်းနှင့် စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့တို့မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်သက်တမ်းနှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄(ဆ)ပါအကြံပြုချက်ပါအတိုင်း ထပ်မံအကြံပြု အပ်ပါသည်

(န) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစည်းကမ်းချက်များဖြစ်သော Governing Law နှင့် Renegotiation တို့သည်လည်းကောင်း၊ မြေငှားစာချုပ်များတွင် ဖော်ပြလေ့ရှိသော Retransfer of the Land စာပိုဒ်သည်လည်းကောင်း မပါရှိ၍ Slip ကပ်ပေးလိုက်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)၏ မျက်နှာဖုံးနှင့်ခေါင်းစီးတို့၌ Lease Agreement ဟု ဖော်ပြထားပါသည်။ မြေတစ်ခုတည်းကိုသာ ငှားရမ်းခြင်းဖြစ်ပါက Land Lease Agreement ဟုဖော်ပြသင့်ပါသည်။ စာချုပ်(မူကြမ်း)၏ မျက်နှာဖုံး နှင့် ခေါင်းစီးတို့၌ Lease Agreement ဟု ဖော်ပြထားသော်လည်း စာချုပ်

(မူကြမ်း)ပါ စည်းကမ်းချက်များ၌ Contarct ဟု ရည်ညွှန်းသုံးနှုန်းထား၍
အသုံးအနှုန်းတစ်ပြေးညီစေရန်အတွက် ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)၌ ငှားရမ်းသည့်မြေ၏ မြေခွန်ကိုလည်းကောင်း၊ သက်ဆိုင်ရာ
အခွန်အခများကိုလည်းကောင်း မည်သူကပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြ
ထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဗ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ်
သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သော တံဆိပ်
ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

(ဘ) စာချုပ်(မူကြမ်း)များ၌ ရေးသားပြုစုထားသော အင်္ဂလိပ်စာအရေးအသား
များသည် ပြေပြစ်မှုမရှိခြင်း၊ ရှင်းလင်းမှုမရှိခြင်း၊ စီးပွားရေးစာချုပ်စာတမ်း
များ၌ သုံးနှုန်းဖော်ပြလေ့ရှိသော ဥပဒေရေးရာအသုံးအနှုန်းများမဟုတ်ခြင်းတို့
ကြောင့် အင်္ဂလိပ်စာအရေးအသားပြေပြစ်မှုရှိစေရေး၊ ရှင်းလင်းမှုရှိစေရေးနှင့်
ဥပဒေရေးရာအသုံးအနှုန်းများ သုံးနှုန်းဖော်ပြရေးတို့အတွက် ဌာနက တာဝန်ယူ
စိစစ်ရန်လိုအပ်ပါသည်၊

(မ) လိုအပ်သောနေရာ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၆။ B.O.T Contarct (မူကြမ်း)နှင့် Lease Agreement (မူကြမ်း)တို့၌ အပန်းဖြေစခန်း
နှင့် ဟိုတယ်လုပ်ငန်းများဆောင်ရွက်မည်ဟု ဖော်ပြထားရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
၁၄-၈-၂၀၁၄ ရက်စွဲဖြင့် ထုတ်ပြန်ကြေညာခဲ့သော အမိန့်ကြော်ငြာစာအမှတ်၊ ၅၀/ ၂၀၁၄ "ပတ်ဝန်း
ကျင်ထိခိုက်မှုဆန်းစစ်ချက်ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်းအမျိုးအစားများသတ်မှတ်ခြင်း"
အမှတ်စဉ် - ၂၀ ၌ "အကြီးစားဟိုတယ်နှင့်ခရီးသွားအပန်းဖြေနေရာများ၊ အပန်းဖြေစခန်းများ
တည်ဆောက်ခြင်း" အား ဖော်ပြထားသည်ကို သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း) ၂ ရပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း
အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ

ချိန်ဆောင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၈။ KMOT Co., Ltd သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၉။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၂)စုံစီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်

**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင် လ ၂၀ ရက်

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် အဆိုပြုတင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဇူလိုင် လ ၁၃ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၂၄/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်း အစည်းအဝေးမှ ဆုံးဖြတ်ချက်များအား သက်ဆိုင်ရာသို့ အကြောင်းကြားမည့် **စာချော** အား တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | | |
| အမည် | ဒေါ်ဝင်းမို့မို့အေး | ဒေါ်သန်းသန်းနု |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |
| ဌာနခွဲ | ရင်းနှီး(၃) | ရင်းနှီး(၃) |

**ညွှန်ကြားရေးမှူး**

၃။

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သည့် အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ**

ဦးခင်မောင်သွင် — အဖွဲ့ဝင်
ဒုတိယအထွေထွေမန်နေဂျာ(အင်/ယာ)
ရန်ကုန်လျှပ်စစ်ဓါတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးခိုင်ထွန်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးရဲမြင့် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမြင့်ကျော် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးအောင်သူထူး — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမြင့်ခိုင် — ကိုယ်စား
လက်ထောက်ညွှန်ကြားရေးမှူး
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ချက်တွင် ချေးငွေစာချုပ်(မူကြမ်း) တင်ပြထားပါကြောင်း၊ မြန်မာနိုင်ငံရှိ ဂျပန်ဘဏ်တွင် ငွေ
ခြင်းထက် မိခင်ကုမ္ပဏီမှငွေချေးယူ၍ ပြန်လည်ပေးဆပ်ရခြင်းက ပို၍အဆင်ပြေသောကြောင့်
ရခြင်းဖြစ်ကြောင်း၊ အတိုးနှုန်း ၁၃ % ဖြစ်ရခြင်းမှာ မိမိတို့ကုမ္ပဏီသည် မြန်မာနိုင်ငံတွင် ပထမဆုံး
ရောက်၍ အဆိုပြုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည့် ကုမ္ပဏီဖြစ်သောကြောင့်ဖြစ်ကြောင်း၊ မိမိတို့
နှင့် ယခုအဆိုပြုလုပ်ငန်း တစ်ခုတည်းကို လုပ်ကိုင်မည်မဟုတ်ဘဲ နောက်ပိုင်းတွင် အခြားလုပ်ငန်း
လုပ်ကိုင်မည်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးလာမည်ဖြစ်ကြောင်း၊ ဖက်စပ်စာချုပ်(မူကြမ်း)
ရှယ်ယာရှင်အမည်လွဲနေခြင်းအား ပြန်လည်စိစစ်ပေးမည်ဖြစ်ကြောင်း၊ ယခုလုပ်ကိုင်ဆောင်ရွက်
စီမံကိန်းအား ချေးငွေယူ၍ လုပ်ငန်းဆောင်ရွက်မည်ကို ပြန်လည်စဉ်းစားမည်ဖြစ်ကြောင်း၊ အဆိုပြု
တွင် လိုအပ်ချက်များနှင့် အခြားပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင်တင်ပြပေး
ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fukamatsugumi Myanmar Co., L
မှ အထပ်မြင့်အိမ်ယာအဆောက်အဦ ဆောက်လုပ်ခြင်းနှင့်ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပ
အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မတည်ငွေရင်းပမာဏထဲတွင် အတိုးနှုန်းမြင့်သော ချေးငွေပါဝ
များနေခြင်းကို ပြန်လည်စဉ်းစား၍လိုအပ်သလို ပြင်ဆင်ပြီးမှ ပြန်လည်တင်ပြရန်။

(ခ) ပြည်ပမှ တင်သွင်းမည့်ပစ္စည်းစာရင်း ပြင်ဆင်တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစ
အဝေးသို့တင်ပြရန်။

၇။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သော ခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ (၉၀၀) ဧကပေါ်တွင် B.O.T စနစ် သဘာဝကိုအခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချ တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်သန်းသန်းနွ
အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကြင်စိန်(ခ)ချန်ကျန်စိန်က ရှင်းလင်းတင်ပြရာတွင် Infinite Creati
Co., Ltd. (ထိုင်း)မှ ၄၉% နှင့် KNL Development Co., Ltd. (မြန်မာ)မှ ၅၁% ထည့်ဝင်၍ ဖက်
နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ကာ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆော
ရွက်မည်ဖြစ်ကြောင်း၊ မိမိတို့ကုမ္ပဏီနှင့် ဖက်စပ်ဆောင်ရွက်မည့် ကုမ္ပဏီမှာ ရန်ကုန်မြို့တွင် ဖူဂျီအမ
နှင့် စားသောက်ဆိုင်(၃)ဆိုင်ရှိပြီး တစ်ကမ္ဘာလုံးတွင် ဆိုင်ခန်းပေါင်း (၁၀၀) ခန့်ရှိကြောင်း၊ ထိုင်းနိုင်
ဂျပန်နိုင်ငံနှင့် ကမ္ဘာဒီးယားနိုင်ငံတို့တွင် ဟိုတယ်လုပ်ငန်းများ လုပ်ကိုင်လျက်ရှိကြောင်း၊ လုပ်င
ဆောင်ရွက်မည့်နေရာမှာ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်

လှိုင်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧကအား ကနဦး(၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ်ဖြင့်
ရမ်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပထမအဆင့်တွင် မြေ(၆၀)ဧကကို Villa အခန်း(၂၀)နှင့်
ဆောက်လုပ်ရန် ပြင်ဆင်နေပါကြောင်း၊ ဒုတိယအဆင့်တွင် ဧက (၅၀)နှင့် တတိယအဆင့်တွင် (၄၈)
တစ်ဆင့်ပြီးတစ်ဆင့် တိုးချဲ့ဆောက်လုပ်သွားမည်ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ
အမေရိကန်ဒေါ်လာ ၂.၅ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ (၅၀)နှစ်ဖြစ်ကြောင်း၊ တည်ဆေ
ရေးကာလမှာ မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃)နှစ်ဖြစ်ပြီး မြေပြင်ကွင်းဆင်းစစ်
ခြင်းကာလအား (၆)လ သတ်မှတ်ထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးဇော်လွင်ထ
အဆိုပြုလုပ်ငန်းမှာ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ကုမ္ပဏီတို့ B.O.T စနစ်ဖြင့် အကျိ
ပူးပေါင်းဆောင်ရွက်မည်ဖြစ်ပြီး အဆိုပြုချက်တွင် B.O.T စာချုပ်(မူကြမ်း) တင်ပြထားသည်ကို
ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ (၉၀၀)ဧကဖြစ်ပြီး ခရီးသွားဧည့်သည်များ အ
အထွက်များသဖြင့် ကုမ္ပဏီအနေနှင့် ဖြစ်နိုင်ပါက စတင်ဆောက်လုပ်မည့်အဆင့်တွင် Villa အ
အတွက်ကို တိုးမြှင့်ဆောက်လုပ်စေလိုကြောင်း၊ မိမိတို့ဌာနတွင် ကျွန်းနှင့်ပတ်သက်၍ ကမ်းခြေဆိုင်
အမိန့်၊ ညွှန်ကြားချက်များ ထုတ်ပြန်ထားသည်ကို ကုမ္ပဏီမှ လိုက်နာဆောင်ရွက်ရန်လိုကြောင်း၊ ဆော
လုပ်မည့် Villa များမှာ သဘာဝအလှတရား မထိခိုက်ဘဲ ကျွန်း၏အမြင့်ဆုံးသစ်ပင်ထက် အမြင့်မ
အောင် ဆောက်လုပ်စေလိုပြီး မိမိတို့ဌာနတွင် ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရန် လျှောက်ထားရမည်
ကြောင်း၊ ၂၀၁၄ ခုနှစ်၌ ပြုစုထားသောစာရင်းအရ လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီ(၁၄)ခုရှိပြီး အ
ကျွန်းများတွင် လုပ်ငန်းများထပ်နေသော်လည်း ကျွန်း၏အရှေ့ဘက်ခြမ်းတွင်လုပ်ကိုင်ခြင်းနှင့် အနော
ဘက်ခြမ်းတွင်လုပ်ကိုင်ခြင်းတို့ ကွဲလွဲပါကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးရဲမြင့်က အဆိုပြုချက်တွင် ပြည်ပမှဟိုတယ်လုပ်
သုံးပစ္စည်းများ တင်သွင်းမည်ဟု ဖော်ပြထားပြီး ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ဝယ်ယူ
တင်ပြထားသည်ကိုမတွေ့ရကြောင်း၊ အဆောက်အဦဆောက်လုပ်ရာတွင် အသုံးပြုမည့်ပစ္စည်းများအ
မည်ကဲ့သို့ ဝယ်ယူတင်သွင်းမည်ကို သိလိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်ကျွန်းတွင် ရေချိုရရှိမှုရှိ-
သိလိုကြောင်း၊ အဆိုပြုချက်တွင် Casino ကစားဝိုင်းပုံ ထည့်သွင်းတင်ပြထားသည်ကိုတွေ့ရကြော
ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချို
က အဆောက်အဦ ဆောက်လုပ်ရာတွင် ကိုယ်တိုင်ဆောက်လုပ်ခြင်း (သို့မဟုတ်) ကန်ထရိုက်တာ
အပ်နှံ၍ဆောက်လုပ်ရန်ရှိ-မရှိသိလိုကြောင်း၊ အဆိုပြုချက်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းမ
ကို ပြည်တွင်းဝယ်၊ပြည်ပဝယ် ခွဲခြားဖော်ပြပေးရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယ
(၉၀၀)ဧကဆိုသည်မှာ တစ်ကျွန်းလုံးဧရိယာဟုတ်-မဟုတ် သိလိုကြောင်း၊ ဟိုတယ်နှင့်ခရီးသွားည
ကြားမှုဦးစီးဌာနသို့ မေးမြန်းလိုသည်မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ယခုကျွန်းတ
လုပ်ငန်းဆောင်ရွက်ခွင့်ချပေးထားသောကြောင့် အခြားလုပ်ငန်းတစ်ခုနှင့် ထပ်နေခြင်းရှိ-မရှိ သိ

ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ (၉၀၈)ဧကတွင် နေရာကွဲ(၃)ခုဖြစ်၍ တစ်နေရ
တစ်နေရာ မည်ကဲ့သို့ ချိတ်ဆက်သွားလာမည်ကိုသိလိုပြီး အဆိုပါဧကအပြည့်ကြည့်ရှုရန် အချိန်မ
ကြာသည်ကိုသိလိုကြောင်း၊ တိုင်းဒေသကြီးအစိုးရထံသို့ မြေငှားရမ်းခပေးရာတွင် နေရာအလိုက်ခွဲခြ
ပေးရခြင်းဟုတ်-မဟုတ်သိလိုကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လုပ်ငန်းစ
ဆောင်ရွက်သည့် မြေဧကကိုသာ ခွင့်ပြုပေးပြီး ဦးထားသည့်မြေနေရာများအား ခွင့်ပြုမပေးတ
ကြောင်း၊ အဆိုပြုချက်တွင် တင်ပြထားသောစာချုပ်များမှာ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘော
မှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့်စာချုပ်များဟုတ်-မဟုတ်သိလိုကြောင်း၊ ဟိုတယ်လုပ်
အသုံးအဆောင်ပစ္စည်းများအား လျှော်ဖွပ်ရန်အတွက် မည်ကဲ့သို့ စီစဉ်ထားသည်ကိုသိလိုပြီး S
Waste နှင့် liquid Waste စွန့်ပစ်မှုတို့အား သဘာဝပတ်ဝန်းကျင် မထိခိုက်အောင် မည်ကဲ့သို့စီ
ဆောင်ရွက်ထားသည်ကိုသိလိုကြောင်း၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် စာလုံးပေါင်း
မှားနေသည်ကို ပြင်ဆင်ပေးရန်လိုပြီး အချို့ပစ္စည်းများ တင်သွင်းရန်အတွက် သက်ဆိုင်ရာဌာ
ခွင့်ပြုချက်ရယူရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့် မော်တော်ဘုတ်များကို လိုင်
ရရှိရန် သက်ဆိုင်ရာဌာနသို့ လျှောက်ထားရမည်ဖြစ်ပြီး အဆိုပါမော်တော်ဘုတ်များတွင် မည်သည့်န
အလံတပ်ဆင်မည်ကို သိလိုကြောင်း၊ ကုမ္ပဏီအနေဖြင့် B.O.T စာချုပ်အား ပြည်ထောင်စုရှေ့နေချုပ်
၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်စေလိုပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေ
သို့ တင်ပြသည့်အခါ လုပ်ငန်းဆောင်ရွက်မည့် နေရာပြမြေပုံကို ပုံကြီးချဲ့၍ တင်ပြပေးရန်လိုကြော
ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက ကျွန်းမြေငှားရမ်
ပေါ်တွင် ဝန်ဆောင်မှုရယူသူမှ ကုန်သွယ်လုပ်ငန်းခွန် ၅%၊ နှစ်ရှည်ငှားရမ်းခြင်း စာချုပ်ပေါ်တွင် တံဆိ
ခေါင်းခွန် ၃% ပေးဆောင်ရမည်ဖြစ်ကြောင်း၊ အဆောက်အဦအား ကန်ထရိုက်တာထံ အပ်နှံ၍ ဆော
လုပ်သည့် ပေးချေမှုပေါ်တွင် ကုန်သွယ်လုပ်ငန်းခွန် ၅% နှင့် Withholding Tax 2% ဖြတ်တော
ပေးဆောင်ရမည်ဖြစ်ကြောင်း၊ အဆိုပြုချက်ပါ အရှုံးအမြတ်စာရင်းတွင် ကုန်သွယ်လုပ်ငန်းခွန် တွက်ချ
ထားသည်ကို ပြန်လည်စိစစ်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမြင့်ကျော်က အဆိုပြုချက်ပါ နောက်ဆက်တွဲ-၃ (
ပြည်ပမှတင်သွင်းမည့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းစာရင်းတွင် Satellite (4) Unit တင်သွင်းမည်ဟု
ပြထားသဖြင့် အဆိုပါပစ္စည်းတင်သွင်းသည့်အခါ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏ ထောက်ခံချ
ပူးတွဲတင်ပြပေးရန်လိုကြောင်း၊ အဆိုပြုလုပ်ငန်းမှာ ကျွန်းပေါ်တွင်လုပ်ကိုင်မည့် ဟိုတယ်လုပ်ငန်းဖြစ်
ကော့သောင်းမြို့နှင့် ကျွန်းသို့သယ်ယူပို့ဆောင်ပေးမည့်ရေယာဉ်များစာရင်းကို တင်ပြပေးရန်လိုကြော
ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်က ယ
အဆိုပြုလုပ်ငန်းမှာ သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဖြစ်၍ အဆိုပါကျွန်းပေါ်တွင် လုပ်ကိုင်ဆော
ရွက်မည့် ကုမ္ပဏီတစ်ခုနှင့် တစ်ခုထပ်နေခြင်း၊ ကန့်သတ်ထားသော အရေးအတွက်ထက် ပိုနေခြင်းရှိ-မ

သိလိုကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ (၉၀၀)ဧကမှာ ဧကများသဖြင့် ပတ်ဝန်း
ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရမည်ဖြစ်ကြေ
ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက လုပ်ငန်းဆောင်
ရာ၌ အသုံးပြုမည့်မော်တော်ဘုတ်များကို ကိုယ်ပိုင်ဝယ်ယူခြင်း (သို့မဟုတ်) ငှားရမ်းအသုံးပြု
မည်ကဲ့သို့ ဆောင်ရွက်မည်ကိုသိလိုပြီး အဆိုပါမော်တော်ဘုတ်များအတွက် သက်ဆိုင်ရာဌာန
လိုင်စင်ရယူရန်လိုကြောင်း၊ အဆိုပြုချက်တွင် တင်ပြထားသော ပစ္စည်းစာရင်းများအား ပြည်တွ
ပြည်ပဝယ်ယူမည့်စာရင်း ခွဲခြားဖော်ပြ၍ ပြန်လည်စိစစ်ပေးစေလိုကြောင်း၊ လုပ်ငန်းဆောင်ရွက်
ရေငုပ်ခြင်းပါဝင်ပါက ဖော်ပြထားသောပစ္စည်းစာရင်းတွင် ရေငုပ်ရာတွင်အသုံးပြုမည့် ပစ္စည်းစာ
ထည့်သွင်းဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကြင်စိန်(ခ)ချန်ကျန်စိန်က ရှင်းလင်းတင်ပြရာတွင် ထိုင်းနိုင်ငံမှ ဘိ
မြေဝယ်ယူ၍ သံချောင်းများကို ပြည်တွင်း၌သာ ဝယ်ယူမည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် ဆော
လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်း၊ပြည်ပဝယ်ယူမ
စာရင်းခွဲခြား၍ ဖော်ပြပေးမည်ဖြစ်ကြောင်း၊ ဟိုတယ်အဆောက်အဦကို ကန်ထရိုက်တာအပ်နှံ
ဆောက်လုပ်မည်ဖြစ်ပြီး ကော့သောင်းမြို့ပတ်ဝန်းကျင်တွင် မိမိတို့နှင့် လက်ရှိလုပ်ငန်းပူးပေါင်းဆေ
ရွက်နေသော ကန်ထရိုက်တာများရှိ၍ ၎င်းတို့ထံတွင်အပ်နှံ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း၊ တစ်ဘ
နိုင်ငံမှ ပစ္စည်းများဝယ်ယူပြီး ကော့သောင်းမြို့ကိုဖြတ်၍ လုပ်ငန်းဆောင်ရွက်မည့်ကျွန်းသို့ တိုက်ရိုက်
ဆောင်မည်ဖြစ်ကြောင်း၊ မိမိတို့စုံစမ်းသိရှိမှုအရ ညောင်ဦးဖီးကျွန်းနှင့် ခက်ရင်းခွကျွန်းတို့တွင် လုပ်
ထပ်နေခြင်းမျိုးမတွေ့ရဘဲ ကျွန်းတစ်ကျွန်းနှင့်တစ်ကျွန်း အနည်းငယ်ဝေးပါကြောင်း၊ ယခုလုပ်
လုပ်ကိုင်မည့်လိုဏ်ဂူကျွန်းနှင့် အနီးဆုံးဂျလန်းကျွန်းကို မိနစ်(၂၀)ခန့်သွားရပြီး ညောင်ဦးဖီးကျွန်း
ခက်ရင်းခွကျွန်းတို့သို့ (၂၅)မိနစ်ခန့်သွားရကြောင်း၊ ညောင်ဦးဖီးကျွန်းနှင့် ခက်ရင်းခွကျွန်းတို့တ
ဟိုတယ်များ စတင်ဆောက်လုပ်လျက်ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် ကျွန်းပေါ်တွင် အိပ်၍
သေးဘဲ မော်တော်ဘုတ်ပေါ်၌သာအိပ်ရကာ တစ်ဘက်နိုင်ငံမှ မော်တော်ဘုတ်အကြီးစားငှားရမ်း
သွားခြင်းဖြစ်ပြီး ကျပ် ၇၅၀,၀၀၀ ခန့် ကုန်ကျကာ အဆိုပါမော်တော်ဘုတ်ပေါ်တွင် လူ(၈)ဦးခန့် အိပ်၍
ကြောင်း၊ ဂျလန်းကျွန်းတွင် မုတ်ကောင်မွေးမြူ၍ ပုလဲထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်လျက်ရှိ
ကြောင်း၊ အချို့ကျွန်းကြီးများတွင် ကျွန်း၏အရှေ့ဘက်ခြမ်း၌ လုပ်ကိုင်ခြင်းနှင့် အနောက်ဘက်ခြမ်း
လုပ်ကိုင်ခြင်းတို့ရှိပါကြောင်း၊ မိမိအနေဖြင့် ယခုလုပ်ငန်းဆောင်ရွက်မည့်ကျွန်း၏ အနောက်ဘက်ခြမ်း
ယူထားပြီး ကမ်းခြေသုံးခုကို အဆင့်သုံးဆင့်ခွဲ၍ ဆောက်လုပ်သွားမည်ဖြစ်ကာ ကျန်မြေများမှာ ကျော
တောင်နှင့်ကျောက်ဆောင်များဖြစ်ကြောင်း၊ ကျောက်တောင်များပေါ်တွင် အပင်ကြီးများအနည်းငယ်
ပြီး အမြင့်ပေမှာ ၆၀၀ကျော်ရှိကြောင်း၊ လိုဏ်ဂူကျွန်းပတ်ဝန်းကျင်တွင် သန္တာကျောက်တန်းများရှိ
ပထမအဆင့်တွင် Villa အလုံး(၂၀)နှင့် စတင်လုပ်ကိုင်ရခြင်းဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ
ရေချိုရရှိမှုမှာ အဓိကဖြစ်၍ အဆိုပါကျွန်းတွင် ရေချိုရရှိသောကြောင့် ရွေးချယ်လုပ်ကိုင်ရခြင်းဖြစ်

လူနေထိုင်မှုမရှိသေးသော်လည်း တံငါသည်များ ရေလာခပ်ကြကာ ကျွန်းကြီးပါက ရေချိုများများ ကြောင်း၊ မိုးတွင်းကာလတွင် မိုးရေကိုစုဆောင်း၍ ရေလှောင်ကန်ထားရှိ ဆောင်ရွက်နိုင်မည် ကြောင်း၊ မိမိနှင့်ဖက်စပ်လုပ်ကိုင်မည့် ကုမ္ပဏီသည် ဂျပန်နိုင်ငံ၊ ထိုင်းနိုင်ငံနှင့် ကမ္ဘောဒီးယားနိုင် တွင် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ပြီး အဆိုပါနိုင်ငံတို့တွင် Casino ကစားဝိုင်းလုပ်ခြင်းပါဝင်သဖြင့် ဒ လုပ်ကိုင်လိုသော်လည်း မိမိအနေဖြင့် ယခုအများက အဆိုပါလုပ်ငန်းကိုလုပ်ကိုင်ခြင်းမရှိပါက မလုပ် ဟုပြောထားကာ အဆိုပြုချက်တွင်လုပ်ကိုင်ခြင်းမပြုကြောင်းကို တင်ပြထားပါကြောင်း၊ မြေဧရိ (၉၀၀)ဧကတွင် အမှန်တကယ်လုပ်ကိုင်မည့် မြေဧရိယာမှာ(၁၅၈)ဧကသာရှိပြီး ကျန်မြေများကို ပတ် ကျင်ထိန်းသိမ်းသည့်အနေနှင့် ပြုစုထားရှိမည်ဖြစ်ကြောင်း၊ ကျွန်းအရှေ့ဘက်ခြမ်းနှင့် အနောက်ဘ ခြမ်းမှာ အနည်းငယ်နီးပြီး သွားမည်ဆိုပါက နာရီဝက်ခန့်ကြာကြောင်း၊ မြေပြန့်ဖြစ်ပါက(၁၅)မိနစ် သာကြာနိုင်သဖြင့် လမ်းဖောက်လုပ်ရန်အတွက် အသုံးပြုမည့်လမ်းကို ရှာနေပါကြောင်း၊ လုပ် ဆောင်ရွက်မည့် မြေငှားရမ်းခမှာ အသုံးပြုနိုင်သောမြေ၊ အရန်ထားရှိသောမြေ နှင့် အကာအကွယ် သည့်မြေဟူ၍ ခွဲခြားထားပြီး မြေငှားရမ်းခမှာ တစ်ခုနှင့်တစ်ခုမတူပါကြောင်း၊ မိမိတို့ရှေ့မှလုပ် သည့်ကုမ္ပဏီ၏ ငှားရမ်းခပေါ်မူတည်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပါနှုန်းကို မှီငြမ်း သတ်မှတ်ပေးပါကြောင်း၊ B.O.T စာချုပ်(မူကြမ်း)ကို ပြည်ထောင်ရှေ့နေချုပ်ရုံးသို့ တင်ပြခဲ့ပြီး ၎ အကြံပြုချက်အတိုင်း ပြင်ဆင်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့ထံသို့ တင်ပြပြီးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ် ကော်မရှင်သို့တင်ပြခြင်းဖြစ်ကြောင်း၊ဟိုတယ်အသုံးအဆောင်ပစ္စည်းများလျှော်ဖွပ်ခြင်းကို ကော့သော မြို့သို့ သယ်ယူလုပ်ဆောင်ပြီးမှ ကျွန်းပေါ်သို့ ပြန်၍သယ်ယူလာမည်ဖြစ်ကြောင်း၊ ကျွန်းပေါ်တွင် ကိုင်ပါက သဘာဝပတ်ဝန်းကျင်ထိခိုက်ခြင်း၊ ပျက်စီးခြင်းတို့ ဖြစ်မည်ကိုစိုးရိမ်၍ ယခုကဲ့သို့ဆောင်ရွ ခြင်းဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့် ရေယာဉ်စာရင်းကို တင်ပြပေးမည်ဖြစ် ပို့ဆောင်ရေးဝန်ကြီးဌာနတွင် လိုင်စင်လျှောက်ထားမည်ဖြစ်ကာ မိမိနိုင်ငံ၏အလံကို တပ်ဆင်မည် ကြောင်း၊ ပြည်တွင်း၌ မော်တော်ဘုတ်အသေးစားများသာရှိသဖြင့် ထိုင်းနိုင်ငံဘက်မှ မော်တော်ဘု အကြီးစားများ ငှားရမ်းအသုံးပြုရန် စဉ်းစားထားပြီး မောင်းနှင်မည့်သူအတွက် လိုင်စင်ပါရယူမည် ကြောင်း၊ အဆိုပြုချက်တွင် လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ဆက်လက်၍ ကုမ္ပဏီ၏ ဒါရိုက်တာ Mr. Amaj Tanaka က ရှင်းလင်းတင်ပြရာတွင် လျှပ် ဓါတ်အားမရရှိသဖြင့် မီးစက်နှစ်လုံးထားရှိ၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ မိမိတို့ကုမ္ပဏီသ ထိုင်းနိုင်ငံ၊ ဂျပန်နိုင်ငံနှင့် ကမ္ဘောဒီးယားနိုင်ငံတို့တွင် ဟိုတယ်လုပ်ငန်းများ လုပ်ကိုင်နေသဖြင့် ၎င်းနို တို့တွင် လုပ်ကိုင်ဆောင်ရွက်နေသည့် နည်းစနစ်အတိုင်း ယခုလုပ်ငန်းကို လုပ်ကိုင်မည်ဖြစ်ကြော အဆောက်အဦဆောက်လုပ်ရာ၌ ရေးဆိုးစွန့်ပစ်မှုစနစ် ထည့်သွင်းဆောက်လုပ်မည်ဖြစ်ပါကြောင်း၊ ကျ ပေါ်တွင် အဝတ်လျှော်ဖွပ်ခြင်း လုပ်ကိုင်ပါက သမုဒ္ဒရာနှင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မည်စိုး ကော့သောင်းမြို့သို့ သယ်ယူလုပ်ကိုင်ရန် စီစဉ်ထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီ ဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ (၉၀၀) ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကိုအခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအား ပြည် ဝယ်၊ ပြည်ပဝယ် ခွဲခြားတင်ပြရန်။

(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစ အဝေးသို့တင်ပြရန်။

၈။ **K Future Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့န ပိုလ်နက်ကျော်ကျွန်းရှိ မြေ (၇၀၀) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆော လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်သန်းသန်း အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးမင်းသူရက ရှင်းလင်းတင်ပြရာတွင် အဆိုပြုလုပ်ငန်းအား တနင် တိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ပိုလ်နက်ကျော်ကျွန်းရှိ မြေဧရိယာ(၇၀၀) ဧ အနက် (၅၀)ဧကပေါ်တွင် ဟိုတယ်ဆောက်လုပ်မည်ဖြစ်ပြီး (၃၅၀)ဧကကို အရန်မြေအဖြစ် ထားရှိမ ဖြစ်ကာ ကျန်(၃၀၀)ဧကကို ကာကွယ်တောများအဖြစ်ထိန်းသိမ်းထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆေ ရွက်ရာတွင် ဘန်ဂလို (၂၆)လုံး ဆောက်လုပ်မည်ဖြစ်ကာ အခန်း (၅၃)ခန်း ပါဝင်မည်ဖြစ်ပြီး စုစုပေ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၁၅၄၀၇၀ အပါအဝင် ကျပ် ၁၆၇၀.၁၇ သန်းဖြစ်ကြော တည်ဆောက်မှုအနေဖြင့် ပထမနှစ်တွင် ဆိပ်ခံတံတားနှင့် ဘန်ဂလို (၁၀)လုံး တည်ဆောက်မည်ဖြစ် ဒုတိယနှစ်တွင် ဘန်ဂလို (၂)လုံးနှင့် ဝန်ထမ်းအိမ်ယာများ ဆက်လက်တည်ဆောက်မည်ဖြစ်ကာ တတိ နှစ်တွင် ကျန်ရှိသည့်အဆောက်အဦများအား ဆက်လက်တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထ ခန့်ထားမှုအနေဖြင့် ဒေသတွင်းမှာရှိသည့် လူငယ်များကို ဦးစားပေးခန့်ထားမည်ဖြစ်ကြောင်း၊ C အနေဖြင့် အသားတင်အမြတ်၏ ၂% အသုံးပြုမည်ဖြစ်ပြီး ပညာရေးကဏ္ဍတွင် ၂၂%၊ ကျန်းမာရေးက တွင် ၂၅% နှင့် ကျန်ရှိသည့်ရာခိုင်နှုန်းကို ဒေသပတ်ဝန်းကျင်နှင့်လမ်းတံတားအတွက် အသုံးပြုမည် ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးဇော်လွင်ထက် အဆိုပြုလုပ်ငန်းအား မြေဧရိယာ (၇၀၀)ဧကပေါ်တွင် အဆင့်အလိုက်ခွဲ၍ ဆောက်လုပ်မည်ဖြစ်ပြီး လ နိုင်သည့်အခြေအနေပေါ်မူတည်၍ ဘန်ဂလိုအရေအတွက် တိုးမြှင့်ဆောက်လုပ်စေလိုပြီး အခန်းမှ တိုးချဲ့တည်ဆောက်သွားနိုင်ရန် ဌာနအနေဖြင့် အကြံပြုလိုပါကြောင်း၊ ဌာနမှထုတ်ပြန်ထားသ

ကမ်းခြေဒေသဆိုင်ရာ စည်းမျဉ်းစည်းကမ်း၊ အမိန့်၊ ညွှန်ကြားချက်များကို လေ့လာပြီး လိုက်နာဆ
ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက ကျွန်းမြေငှားရ
ပေါ်တွင် ဝန်ဆောင်မှုယူသူမှ ကုန်သွယ်လုပ်ငန်းခွန် ၅%၊ နှစ်ရှည်ငှားရမ်းစာချုပ်ပေါ်တွင် တံဆိပ်ခေ
ခွန် ၃%၊ အဆောက်အဦအား ကန်ထရိုက်တာအပ်နှံဆောက်လုပ်သည့်အခါ ပေးချေသည့်ငွေပေါ်
ကုန်သွယ်လုပ်ငန်း ခွန် ၅% နှင့် Withholding Tax ၂% ဖြတ်တောက်၍ ပေးဆောင်ရမည်ဖြစ်ကြေ
ဝင်ငွေခွန်တွက်ချက်မှုကို ရက်ပေါင်း ၃၆၅ ရက်ဖြင့်တွက်ချက်ထားသဖြင့် အမှန်တကယ် လုပ်
ဆောင်ရွက်မည့် ၆ လဖြင့် ပြင်ဆင်တွက်ချက်ရမည်ဖြစ်ကြောင်း၊ Form-E တင်ပြစဉ်က Kaung Fut
ဟုတွေ့ရှိရသဖြင့် ယခုကုမ္ပဏီနှင့်မည်သို့ဆက်စပ်နေသည်ကိုသိလိုကြောင်း ဆွေးနွေးပြောကြားပါသ

ကုန်သွယ်ရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမြင့်ကျော်က အဆိုပြုချက်ပါ နောက်ဆက်တွဲ-၃(
ပြည်ပမှတင်သွင်းမည့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းစာရင်းတွင် Satellite ထည့်သွင်းတင်ပြထားသ
အဆိုပါပစ္စည်းအား အမှန်တကယ်တင်သွင်းသည့်အခါ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏ ထော
ချက်ပူးတွဲတင်ပြရန်လိုကြောင်း၊ ကုမ္ပဏီအနေဖြင့် ခရီးသည်တင်မည့်မော်တော်ဘုတ် ဝယ်ယူရန်ရှိပ
အဆိုပြုချက်ပါ ပစ္စည်းဝယ်ယူမည့်စာရင်းတွင် တစ်ခါတည်းထည့်သွင်း ဖော်ပြရန်လိုပြီး ဆောက်လုပ်
လုပ်ငန်းသုံးပစ္စည်းများကိုလည်း ထည့်သွင်းဖော်ပြထားခြင်းမရှိသဖြင့် တင်သွင်းရန်ရှိ-မရှိသိလိုကြေ
မော်တော်ဘုတ်အသုံးပြုခွင့်အား ပို့ဆောင်ရေးဝန်ကြီးဌာနတွင်လိုင်စင်လျှောက်ထားရန်လိုပြီး အသေး
ဝေါ်ကီတော်ကီ အသုံးပြုရန်အတွက်လည်း ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနတွင် လျှောက်ထား
လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်က အ
ပြုလုပ်ငန်းကို ကျွန်းတစ်ခုလုံးနည်းပါး လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်၍ ဧကများသောကြောင့် ပတ်
ကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရန်
ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချို
က ကျွန်းမြေငှားရမ်းခတွင် အသုံးပြုမည့်မြေအတွက် ငှားရမ်းခနှုန်းမှာ ကျပ်၂၀,၀၀၀ နှင့် ကာကွ
တောမြေအတွက် ငှားရမ်းခနှုန်းမှာ ကျပ် ၂၀,၀၀၀ ဖြစ်နေသည်ကို တွေ့ရကြောင်း၊ ယခုကုမ္ပဏီသ
လက်ရှိတွင် ခရီးသွားလုပ်ငန်း ဆောင်ရွက်ခြင်းရှိ-မရှိသိလိုပြီး ဟိုတယ်လုပ်ငန်းနှင့်ပတ်သက်၍ အတွေ
အကြုံရှိ-မရှိသိလိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာ၌ မြေပြင်ကွင်းဆင်း၍ စစ်တမ်းကောက်
ပြီးခြင်းရှိ-မရှိသိလိုပြီး မုန်တိုင်းနှင့်ပတ်သက်၍မည်ကဲ့သို့စီစဉ်ထားသည်ကိုသိလိုကြောင်း၊ ဆိပ်ခံတံတ
တည်ဆောက်ရာတွင် အကျယ်မည်မျှရှိသည်ကိုသိလိုပြီး ခရီးသည်များအား မည်သည့်အစီအစဉ်ဖြ
ခေါ်ယူမည်ကိုသိလိုကာ တစ်နှစ်လျှင်လမည်မျှ ဖွင့်လှစ်မည်ကို သိလိုကြောင်း၊ အဆိုပြုချက်ပါ ပစ္စ
စာရင်းတွင် စာလုံးပေါင်းများ မှားယွင်းနေပါသဖြင့် ပြန်လည်ပြင်ဆင်ပေးရန်နှင့် စာချုပ်များအားပြ

လည်စိစစ်ပေးရန်လိုကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် မည်ကဲ့သို့စီစဉ်ဆောင်ရွက်
သည်ကိုသိလိုပြီး မီးသတ်ဝန်ထမ်း ထားရှိပေးရန်ရှိ-မရှိ သိလိုကြောင်း၊ ယခုလုပ်ငန်းဆောင်ရွက်
ပိုလ်နက်ကျော်ကျွန်းအနီးတွင် ရေတပ်စခန်းရှိ-မရှိသိလိုကြောင်း၊ နယ်မြေလုံခြုံရေးကို တိုင်းဒေသ
အစိုးရအဖွဲ့မှ ဆောင်ရွက်ပေးခြင်းရှိ-မရှိသိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ဆောက်လုပ်
ဟိုတယ်ဒီဇိုင်းရေးဆွဲရာတွင် မည်သည့်အဖွဲ့မှ ရေးဆွဲပေးမည်ကိုသိလိုပြီး ရေယာဉ်များတင်သွင်း
ဆိုပါက တင်သွင်းမည့်ပစ္စည်းစာရင်းတွင် ထည့်သွင်းဖော်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးမင်းသူရက ရှင်းလင်းတင်ပြရာတွင် ကျွန်းမြေငှားရမ်းခမှာ တိုင်းဒေ
ကြီးအစိုးရအဖွဲ့မှ သတ်မှတ်ပေးသည့် ဈေးနှုန်းအတိုင်း တင်ပြထားခြင်းဖြစ်ပါကြောင်း၊ လက်ရှိတွင်
သွားလုပ်ငန်း လုပ်ကိုင်ခြင်းမရှိသေးသော်လည်း ခရီးသွားလုပ်ငန်း ဆောင်ရွက်နေသော ကုမ္ပဏီများ
ချိတ်ဆက်ထားပါကြောင်း၊ မော်တော်ဘုတ်ဝယ်ယူမည့်စာရင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စ
များစာရင်းအား အဆိုပြုချက်တွင် ထည့်သွင်းဖော်ပြပေးမည်ဖြစ်ကြောင်း၊ မော်တော်ဘုတ်အသုံးပြု
နှင့် ဝေါကီတော်ကီအသုံးပြုခွင့်တို့ကို သက်ဆိုင်ရာဝန်ကြီးဌာနများသို့ လိုင်စင်လျှောက်ထား၍ ဆေ
ရွက်သွားမည်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့် လက်ရှိတွင် ပြင်ဦးလွင်စက်ရုံကို မြန်မာ့စီးပွားရေးဦး
လီမီတက်နှင့်လည်းကောင်း၊ ကျောက်ဆည်စက်ရုံကို စက်မှုဝန်ကြီးဌာနနှင့်လည်းကောင်း၊ ဆေးဝါး
ဖြန့်ဖြူးခြင်းလုပ်ငန်းအား B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိပြီး ရာဘာစိုက်ပျိုးခြင်းလုပ်ငန်းကို စ
ဝန်ကြီးဌာနနှင့် ဖက်စပ်ဆောင်ရွက်လျက်ရှိကာ Trading လုပ်ငန်းကိုလည်း လုပ်ကိုင်ပါကြော
တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်ခရိုင်၊ သရက်ချောင်းမြို့နယ်တွင် ကျွန်းစိုက်ပျိုးခြင်းလုပ်ငန်းကိုလ
ဆောင်ရွက်လျက်ရှိပါကြောင်း၊ ဟိုတယ်လုပ်ငန်းနှင့်ပတ်သက်၍ အတွေ့အကြုံမရှိသေးသော်လ
တည်ဆောက်ရေးလုပ်ငန်းများတွင် အတွေ့အကြုံရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာ
ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနမှ လိုက်ပါ၍ မြေပြင်ကွင်းဆင်း၍ စစ်တမ်းကောက်ယူ
ဖြစ်ကာ မြေတိုင်းတာခြင်းကိစ္စ ပြီးစီးပြီးဖြစ်ကြောင်း၊ မုန်တိုင်းနှင့်ပတ်သက်၍ မစီစဉ်ရသေးပါကြော
ဆိပ်ခံတံတား၏အကျယ်ကို ကားနှစ်စီးသွားလာနိုင်သည့်အကျယ်အဝန်း ဆောက်လုပ်မည်ဖြစ်ပြီး ခ
သည်များကို ရန်ကုန်မြို့မှ လေယာဉ်ဖြင့်ခေါ်ယူရန်စီစဉ်ထားပြီး ကော့သောင်းမြို့ Resort မှတစ်ခ
ကျွန်းသို့သွားမည်ဖြစ်ပြီး ကော့သောင်းမြို့မှ လာရောက်သည့်ခရီးသည်မှာနည်းကာ လုပ်ငန်းစဝ
လုပ်ကိုင်မှသာ အခြေအနေကို သိမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်ကာလမှာ တစ်နှစ်လ
(၆)လခန့်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် မီးသတ်သင်တန်းပေးမည်ဖြစ်ပြီး အ
မီးသတ်အနေဖြင့် ထားရှိသွားမည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ကျွန်း၏တောင်ဘ
ညောင်ဦးဖီးကျွန်းတွင် ရေတပ်စခန်းရှိပါကြောင်း၊ နယ်မြေလုံခြုံရေးအတွက် တိုင်းဒေသကြီးအစိုးရအ
မှ ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း၊ ဟိုတယ်ဒီဇိုင်းရေးဆွဲရန်အတွက် မိမိတွင်ကိုယ်ပိုင်Teamအဖွဲ့ရှိ
ရင်းမှဒီဇိုင်းရေးဆွဲပေးမည်ဖြစ်ကြောင်း၊ Form-E တင်ပြစဉ်က Kaung Future အမည်ဖြင့်ဆောင်ရွ
ခဲ့ပြီး ယခုနောက်ပိုင်းတွင် K Future အမည်နှင့် ပြောင်းလဲဆောင်ရွက်ခဲ့ခြင်းဖြစ်ကြောင်း၊ လိုအပ်သ

စက်ပစ္စည်းစာရင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများကို ထည့်သွင်းဖော်ပြပေးမည်ဖြစ်ပြီး ဆင်ရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ K Future Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း ကော့သောင်းမြို့နယ်၊ ဗိုလ်နက်ကျော်ကျွန်းရှိ မြေ (၇၀၀) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အော အတိုင်း ဆုံးဖြတ်ပါသည်-

(က) မော်တော်ဘုတ်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများစာရင်းအား ပြည်တွင်း၊ပြ ခွဲခြားဖော်ပြရန်။

(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစ အဝေးသို့တင်ပြရန်။

**၉။ Amata International Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့်ဘားလားကျွန်းတို့ရှိ မြေ (၁၀၀) ဧကစီတွင် B.O.T စနစ်ဖြင့် နို တကာအဆင့်မီ Diving Resort Hotel & Dive Recreating Centre ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်သန်းသန်း အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဒေါ်နီလာဝင်းက ရှင်းလင်းတင်ပြရာတွင် မိမိတို့ Amata Gro Co., Ltd. သည် လက်ရှိတွင် Amata Hotel အမည်နှင့် အင်းလေးဒေသ၊ ငပလီကမ်းခြေနှင့် ပုဂံဒေ တို့တွင် ဟိုတယ်လုပ်ငန်းဆောင်ရွက်နေပြီး Oriental Ballooning အမည်နှင့် မန္တလေးမြို့နှင့် ဒေသတို့တွင် မိုးပျံပူဖောင်းစီးနင်းခြင်းလုပ်ငန်း ဆောင်ရွက်နေပါကြောင်း၊ အဆိုပြုလုပ်ငန်းအ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့်ဘားလားကျွန်းတိ မြေဧရိယာ (၁၀၀) ဧကစီရှိသော ကျွန်းနှစ်ကျွန်းပေါ်တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အညီ B.O.T စနစ်ဖြင့် Diving Resort Hotel & Dive Recreation Centre ဟိုတယ်လုပ် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းသက်တမ်းမှာ နှစ်(၅၀)ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် က ၇၂၅,၀၀၀ ဖြစ်ပြီး မြေအသုံးချမှုပရီမီယံကြေးမှာ တစ်ဧကလျှင် ကျပ် ၁၀၀၀၀ နှုန်းဖြစ်ကြော စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၁၀၅၀၀.၀၀ သန်းဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေ မှာ ကော့သောင်းမြို့မှ ရေမိုင်(၄၀)အကွာအဝေးတွင်ရှိပြီး အမြန်ရေယာဉ်နှင့်သွားပါက ၄၅ မိနစ်ခန့်က ပါကြောင်း၊ ဆောက်လုပ်မည့်အခန်းအမျိုးအစားများမှာ ဘန်ဂလို (၂၀)လုံး၊ diving centre (၃၀) ပါဝင်ပြီး ဘန်ဂလို ဝန်ဆောင်ခနှုန်းမှာ အမေရိကန်ဒေါ်လာ ၅၀၀ နှင့် Diving Recreation Cent ဝန်ဆောင်ခနှုန်းမှာ အမေရိကန်ဒေါ်လာ ၂၀၀ တို့ဖြစ်ပါကြောင်း၊ Sight Seeing အတွက် ဝန်ဆော နှုန်းမှာ အမေရိကန်ဒေါ်လာ ၁၀၀၀ ဖြစ်ပြီး လှေ (၁၀)စီးထားရှိဆောင်ရွက်ရန် ရည်ရွယ်ထားပါကြော

ဝန်ထမ်းအင်အားအနေဖြင့် ပြည်တွင်းဝန်ထမ်း (၆၄)ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ၁၂၀,၀၀၀ ဖြစ်ကာ အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ကြောင်း၊ ယခုလောလောဆယ် ပြည်တွင်းဝန်ထမ်းများကိုသာ ခန့်ထားမည်ဖြစ်ပြီး လိုအပ်မှသာ ပြည်ပဝန်ထမ်းခန့်ထားမည်ဖြစ်ကြော CSR အနေဖြင့် တစ်နှစ်လျှင် ကျပ်သိန်း (၂၀၀)သုံးစွဲမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးဇော်လွင်ထက ယခုအဆိုပြုလုပ်ငန်းမှာ B.O.T စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ကျွန်းတစ်ကျွန်းလျှင်(၁၀၀)ဧ ရှိကာ စုစုပေါင်းအခန်း(၅၀)ပါရှိကြောင်း၊ ဝန်ဆောင်မှုပေးရာတွင် Diving ပါဝင်သောကြောင့် အန္တရာယ်ကင်းရှင်းရေးအတွက် သေချာစွာ ဂရုစိုက်လုပ်ကိုင်ရန်နှင့် အရေးပေါ်အသက်ကယ်ဆယ် ထားရှိဆောင်ရွက်ရန်လိုကြောင်း၊ ကုမ္ပဏီသည် ဝန်ဆောင်မှုပေးမည့် အခန်းဝန်ဆောင်ခနှုန်းထား သင့်တင့်သည့်ဝန်ဆောင်မှုပေးရန်လိုကြောင်း၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနမှ ချမှတ်ထ သော ကမ်းခြေဒေသဆိုင်ရာအမိန့်၊ ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရန်လိုကြောင်း ဆွေး ပြောကြားပါသည်။

ရန်ကုန် လျှပ်စစ်ဓာတ်အားပေးရေး ကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်/ယ ဦးခင်မောင်သွင်က လုပ်ငန်းဆောင်ရွက်ရန်အတွက် လျှပ်စစ်ဓာတ်အား မည်ကဲ့သို့ရယူအသုံးပြုမည် သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက အဆိုပြုလုပ်င ဆောင်ရွက်မည့်ကျွန်းငှားရမ်းခအပေါ်တွင် ကုန်သွယ်လုပ်ငန်းခွန် ၅% နှင့် မြေငှားရမ်းခြင်းစာချုပ် တွင် တံဆိပ်ခေါင်းခွန် ၃% ပေးဆောင်ရမည်ဖြစ်ကြောင်း၊ အဆောက်အဦအား ကန်ထရိုက်တာ အပ်နှံဆောက်လုပ်မည်ဆိုပါက ကုန်သွယ်လုပ်ငန်းခွန် ၅% နှင့် Withholding Tax 2% ဖြတ်တော ပေးဆောင်ရမည်ဖြစ်ကြောင်း၊ အဆိုပြုချက်ပါ ပုံစံ-၁၊ စာမျက်နှာ-၂ ၌ ဆောက်လုပ်ရေးပစ္စည်းများနှ ဟိုတယ်ပစ္စည်းများကို စင်ကာပူနိုင်ငံရှိ Amata(S)Pte. Ltd. မှ တရားဝင်ရရှိသော နိုင်ငံခြားငွေများဖြ ဝယ်ယူမည်ဟု တင်ပြထားရာ ယခုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီနှင့် Amata(S)Pte. Ltd. မည်သို့ဆက်စပ်ပတ်သက်မှုရှိသည်ကိုသိလိုကြောင်း၊ ချေးငွေယူရာတွင် အတိုးနှုန်းပေါ်၌ အခွန်ကော ခံမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချို က ကုမ္ပဏီသည် လုပ်ငန်းလည်ပတ်ရန်အတွက် ချေးငွေပါဝင်ခြင်းရှိ-မရှိ သိလိုပြီး အစုရှယ်ယာရှ ချေးငွေအနေနှင့် ဆောင်ရွက်ခြင်း (သို့မဟုတ်)ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခြင်းဟုတ်-မဟုတ် သိ ကြောင်း၊ အဆိုပြုလုပ်ငန်းအား ပြည်ပကုမ္ပဏီမှငွေကြေးရယူ၍ လုပ်ငန်းလည်ပတ်မည်ဆိုပါက ပြန်လည် ပေးဆပ်ရမည်ဖြစ်၍ ပေါ်လွင်အောင် ရေးပေးရန်လိုကြောင်း၊ အဆိုပြုလုပ်ငန်းတွင် Diving ပါဝင်သေ ကြောင့် နည်းပြခန့်ထားရန်ရှိ-မရှိနှင့် အရေးပေါ်အသက်ကယ်ဆယ်နည်း သင်ကြားပေးရန်ရှိ-မရှိ သိ ပြီး Safety ပိုင်းကို သေချာစွာဂရုစိုက် ဆောင်ရွက်ရန်လိုကြောင်း၊ ဟိုတယ်အသုံးအဆောင်ပစ္စည်းမျ

အား မည်သို့လျှော့ဖွပ်မည်ကိုသိလိုကြောင်း၊ ပြည်တွင်း၌ဝယ်ယူ၍ရသောပစ္စည်းများအား ပြည်တွ
သာဝယ်ယူစေလိုကြောင်း၊ ဟိုတယ်အခန်းဝန်ဆောင်ခနှုန်းထားမှာ အနည်းငယ်များနေသဖြင့် ပြန်
စိစစ်ပေးစေလိုပြီး တစ်နှစ်ပတ်လုံးတွင် လမည်မျှဖွင့်မည်ကိုသိလိုကြောင်း၊ Sight Seen မှာ ကျွန်း
(သို့မဟုတ်) ကျွန်းအပြင်ဘက်ပတ်ခြင်းဟုတ်-မဟုတ် သိလိုကြောင်း၊ B.O.T စာချုပ်ကို ပြည်ထော
ရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုရန်လိုကြောင်း၊ ကုမ္ပဏီအနေဖြင့်
ပေါ်တွင် Adventure Tour လုပ်ကိုင်ရန်ရှိ-မရှိ သိလိုကြောင်း၊ ငွေကြေးဆိုင်ရာတွက်ချက်မှုနှင့် အ
ချက်တွင် တင်ပြထားသောစာချုပ်များကို ပြန်လည်စိစစ်ပေးစေလိုကြောင်း ဆွေးနွေးပြောကြားပါသ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ယခုလုပ်ငန်းဆေ
ရွက်မည့်ကုမ္ပဏီသည် စင်ကာပူနိုင်ငံတွင် ကုမ္ပဏီရုံးခွဲ ဖွင့်လှစ်ထားခြင်းရှိ-မရှိ သိလိုကြောင်း၊
ကုမ္ပဏီအနေဖြင့် Amata(S) Pte. Ltd. မှ ငွေကြေးအား မည်သည့်နည်းလမ်းဖြင့် ရယူမည
ရှင်းလင်းစွာ ဖော်ပြပေးရန်လိုကြောင်း၊ မြေအသုံးချမှုပရီမီယံကြေးကို Cost တွင် ထည့်သွင်းထာ
ငွေသားနှင့်ပေးရမည်ဖြစ်သောကြောင့် ငွေသားအနေနှင့်သာ ပြန်လည်ပြင်ဆင်ပေးရန်လိုပြီး အ
အမြတ်စာရင်း ပြန်လည်တွက်ချက်တင်ပြရမည်ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများအ
ရန်ကုန် CIF နှင့် ကော့သောင်း CIF တွင် မည်သည့်လမ်းကြောင်းမှတင်သွင်းမည်ကို သိလိုကြော
စီးပွားရေးဆိုင်ရာတွက်ချက်မှုတွင် ဟိုတယ်ဖွင့်လှစ်မည့်ကာလအား တစ်နှစ်ပတ်လုံးအတွက် တွက်ချ
ထားသဖြင့် ပြန်လည်စိစစ်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမြင့်ကျော်က ပြည်ပမှတင်သွင်းမည့် စက်ပစ္စ
စာရင်းတွင် ရေယာဉ်များပါဝင်နေသဖြင့် အဆိုပါပစ္စည်းများတင်သွင်းပါက ပို့ဆောင်ရေးဝန်ကြီးဌာန
ထောက်ခံချက်ပူးတွဲတင်ပြရန်လိုကြောင်း၊ ပြည်ပမှတင်သွင်းမည့် သံချောင်းဈေးနှုန်း ဖော်ပြထားချက်
သတ်မှတ်ဈေးနှုန်းထက် နည်းနေသဖြင့် ပြန်လည်စိစစ်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်
ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းမှာ နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recr
ation Centre ဟိုတယ်လုပ်ငန်းဖြစ်ပြီး တစ်ကျွန်းလျှင် ဧက (၁၀၀) စီရှိ၍ ပတ်ဝန်းကျင် ထိခိုက်
ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးေ
ပြောကြားပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဒေါ်နီလာဝင်းက အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် လျှပ်စစ်ဓာ
အားကို ကိုယ်ပိုင်မီးစက်ထားရှိ၍ ရယူမည်ဖြစ်ကြောင်း၊ Amata(S) Pte. Ltd. သည် စင်ကာပူနိုင်ငံတွ
ရုံးခွဲရှိပါကြောင်း၊ ယခုကုမ္ပဏီမှာရန်ကုန်မြို့တွင်ရှိကာ တိုင်းရင်းသားပိုင်ကုမ္ပဏီဖြစ်ပါကြောင်း၊ Ama
International Co., Ltd. ၏ အချို့လုပ်ငန်းများမှာ အဆိုပါကုမ္ပဏီနှင့်ဆက်စပ်မှုရှိ၍ ဖက်စပ်သဘေ
မျိုးဖြစ်နေပြီး ယခင်လုပ်ငန်းများမှ ဝင်ငွေကိုပြန်ယူ၍ လုပ်ကိုင်သည်ဖြစ်ကာ ဒါရိုက်တာအဖွဲ့မတူ
ပါကြောင်း၊ Diving အတွက် နည်းပြထားရှိမည်ဖြစ်ပြီး ဝန်ထမ်းများကို သေချာစွာသင်တန်းပေး
လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဟိုတယ်တွင် ရေသန့်စင်စနစ်ကို အသုံးပြုမည်ဖြစ်ပြီး ယခုအ

မိလ္လာရေမှ အပင်များရေလောင်းနိုင်သော ရေသန့်ရရှိသည်အထိ သန့်စင်ပေးနိုင်သည့်စနစ်ကို အသ
နေကြပြီဖြစ်ကြောင်း၊ ပြည်ပမှစက်ပစ္စည်းများ တင်သွင်းရာတွင် ပင်လယ်ရေကြောင်းလမ်းဖြင့် ရန်
မြို့(သို့မဟုတ်) နယ်စပ်ကုန်သွယ်ရေးဂိတ်မှ တင်သွင်းမည်ဖြစ်ပြီး အများအားဖြင့် ကော့သောင်
ဘက်မှတင်သွင်းမည်ဖြစ်ကြောင်း၊ ပြည်တွင်း၌ဝယ်ယူရရှိနိုင်သောပစ္စည်းများကို ပြည်တွင်း၌သာဝယ
မည်ဖြစ်ကြောင်း၊ ဟိုတယ်သို့ဧည့်သည်လာရောက်မှု အမြင့်ဆုံးရာသီနှင့်အနည်းဆုံးရာသီရှိသောကြေ
လုပ်ငန်းလည်ပတ်ချိန်မှာ(၁)နှစ်လျှင်(၆)လသာ လုပ်ကိုင်နိုင်မည်ဖြစ်ပြီး အချို့လများတွင် ဟိုတယ်
လုံးဝပိတ်ထားရသည်များရှိကြောင်း၊ ငွေကြေးဆိုင်ရာတွက်ချက်မှုများကို ပြန်လည်စိစစ်ပေးမည်ဖြ
အခြားပြင်ဆင်ရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသ

အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Amata International Co., Ltd
B.O.T စနစ်ဖြင့် Diving Resort Hotel & Dive Recreation Centre ဟိုတယ်လုပ်ငန်း ဆောင်ရွ
ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းလည်ပတ်ရန် ငွေကြေးရယူမည့်ကိစ္စအား ရှင်းလင်းစွာ ဖော်ပြပေးရန်။

(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစ
အဝေးသို့ တင်ပြရန်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ၁၀။ အစည်းအဝေးမှ အောက်ပါတို့ကို ဆုံးဖြတ်ပါသည်- | |
| (က) ရခိုင်ရှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Xiang Yi Industrial Manufactory Co., Ltd. မှ CMP စနစ်ဖြင့် အိတ်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် မြေကိစ္စအား ရှင်းလင်းအောင် ဆောင်ရွက်ပြီးမှ အဆိုပြုချက်အား ပြန်လည်တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Xiang Yi Industria<br>Manufactory<br>Co., Ltd. |
| (ခ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Oji Mingaladon Packaging Co., Ltd. တည်ထောင်ကာ ကတ်ထူစက္ကူချပ်နှင့် ကတ်ထူသေတ္တာများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) ကုန်ချောပစ္စည်းထုတ်လုပ်ရာ၌ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်း စံနှုန်း(Norm) တင်ပြပေးရန်။<br>(၂) ထုတ်လုပ်သည့်ကုန်ချောတွင် ပြည်တွင်း၊ပြည်ပ သုံးစွဲမည့် ကုန်ကြမ်းပါဝင်မှုနှုန်း ဖော်ပြရန်။<br>(၃) မူလစက်ရုံထွက်ပစ္စည်းများကို စက်ရုံသစ်၏ ကုန်ကြမ်း | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Oji Mingaladon<br>Packaging<br>Co., Ltd. |

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| အဖြစ် အသုံးပြုမည့် ပစ္စည်းစာရင်း ခွဲခြားဖော်ပြပေးရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | |
| (ဂ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited မှ မွန်ပြည်နယ်၊ မုဒုံမြို့နယ်တွင် ဆိပ်ကမ်းတစ်ခုထူထောင်၍ ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့်အခြားလုပ်ငန်းသုံး ပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍ "မူ" တောင်းခံရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ MOSB Limited |
| (ဃ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fukamatsugumi Myanmar Co., Ltd. မှ အထပ်မြင့်အိမ်ယာ အဆောက်အဦဆောက်လုပ်ခြင်းနှင့်ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍-<br>(၁) လုပ်ငန်းဆောင်ရွက်မည့် မတည်ငွေရင်းပမာဏထဲတွင် အတိုးနှုန်းမြင့်သော ချေးငွေပါဝင်မှု များနေခြင်းကို ပြန်လည်စဉ်းစား၍ လိုအပ်သလို ပြင်ဆင်ပြီးမှ ပြန်လည်တင်ပြရန်။<br>(၂) ပြည်ပမှ တင်သွင်းမည့်ပစ္စည်းစာရင်း ပြင်ဆင်တင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ Fukamatsugumi Myanmar Co., Ltd. |
| (င) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကိုအခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍-<br>(၁) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်းဝယ်၊ ပြည်ပဝယ် ခွဲခြားတင်ပြရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ KMOT Co., Ltd. |

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| လာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | |
| (စ) K Future Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဗိုလ်နက်ကျော်ကျွန်းရှိ မြေ(၇၀၀)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) မော်တော်ဘုတ်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများစာရင်းအား ပြည်တွင်း၊ပြည်ပ ခွဲခြားဖော်ပြရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်း အဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>K Future Co., Ltd. |
| (ဆ) Amata International Co., Ltd.မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဖိုးနီကျွန်းနှင့် ဘားလားကျွန်းတို့ရှိ မြေ(၁၀၀)ဧကစီတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Diving Resort Hotel & Dive Recreating Centre ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) လုပ်ငန်းလည်ပတ်ရန် ငွေကြေးရယူမည့် ကိစ္စအား ရှင်းလင်းစွာ ဖော်ပြပေးရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Amata International Co., Ltd. |

၁၁။ အစည်းအဝေးကို (၁၅:၀၅) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သ

၁၈.၇.၂၀

(စန်းစန်းမြင့်

ညွှန်ကြားရေးမှ

စာအမှတ်၊ ရက-၆/ ၁/၂၀၁၅ ( ၈၃၃၇ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၈ ရက်

ဖြန့်ဝေခြင်း

အစည်းအဝေးတက်ရောက်သူများအားလုံး

# မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု နှင့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှု ဖြင့် အစိုးရအဖွဲ့အစည်းပိုင်မြေ တွင် ငှားရမ်းဆောင်ရွက်မည့် မြေဆိုင်ရာအချက်အလက်များ

| PAT အကြိမ်/ရက်စွဲ | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | အဆောက်အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm) (US$ / ကျပ်) | ငှားရမ်း မည့်နှစ် | မြေဂရန်ခွင့်ပြုမှု | | | သဘော... များ |
|---|---|---|---|---|---|---|---|---|---|---|
| | | | | | | | အမည် | ခွင့်ပြု ရက်စွဲ | ခွင့်ပြု ကာလ (နှစ်) | |
| ၂၄/၂၀၁၅ (၁၃-၇-၂၀၁၅) | KMOT Co., Ltd. | - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း<br>- တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လိုဏ်ဂူကျွန်း | - အသုံးပြုနိုင်သောမြေ - ၆၀ ဧက<br>-အရန်ထားရှိမြေ -၉၈ ဧက<br>- အကာအကွယ်ပေးမြေ-၇၄၂ ဧက<br>**စုစုပေါင်း - မြေ (၉၀၀)ဧက** | မပါရှိပါ။ | - အသုံးပြုနိုင်သောမြေ - ၁ ဧက US$ ၁၄၀ နှုန်းဖြင့် ၆၀ ဧက= US$ ၈၄၀၀<br>- အရန်ထားရှိမြေ ၁ ဧက US$ ၇ နှုန်းဖြင့် ၉၈ ဧက= US$ ၆၈၆<br>- အကာအကွယ်ပေးမြေ- ၁ ဧက US$ ၂.၂၅ နှုန်းဖြင့် ၇၄၂ ဧက= US$ ၁၆၇၀<br>၁ နှစ် စုစုပေါင်း US$ ၁၀၇၅၆ | ၅၀ နှစ်+ ၁၀ +၁၀ | တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | | | ပတ်ဝန်း... ကျင်ထိန်း... သိမ်းရေး... သစ်တော... ရာဝန်ကြီး... ၊ ဟိုတယ်... ခရီးသွား... ရေးလုပ်... ဝန်ကြီးဌာ... |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎-၀၁-၆၅၈၁၁၂၂
ဖက်(စ်)-၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ / န-၀၂၉/၂၀၁၅ ( ၄၉၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၈ ရက်

သို့

**ကုမ္ပဏီများညွှန်ကြားမှုဌာန**

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ၏ ၂၉-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃၅၂၉/၈၃၉/၈-၃၉/အဖရ(တနင်္သာရီ)

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန် (ခ) ချန်ကျန်စိန် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုချက် တင်ပြလာမှုအား သိသာနိုင်ပါရန် နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(လင်းထွဋ်၊ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၈ ရက်

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ)ချန်ကျန်စိန် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ သို့ပါ၍ အဆိုပြုချက် တင်ပြမှုအား သိရှိနိုင်ပါရန် ပေးပို့အကြောင်းကြားမည့် **စာချော** အား တင်ပြအပ်ပါသည်။

8/7/2015

(ဝင်းမို့မို့အေး)

ဦးစီးအရာရှိ

**လ/ထ-ညွှန်မှူး**

၃။ အဆိုပြုလွှာပါအတိုင်း အဆိုပြုချက်တင်ပြလာခြင်းအား [illegible] သိရှိနိုင်ပါရန် အကြောင်းကြားသည့် "စာချော" အား [illegible] ပေးပို့နိုင်ပါရန် တင်ပြအပ်ပါသည်။

8/7

(သန်းသန်းဦး)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၁ ရက်

M3-469 13/7

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီ တိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လို့ဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝ ကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းအပေါ် ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လို့ဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကြင်စိန်(ခ)ချန်ကျန်စိန် မှ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **မြေငှားစာချုပ်(မူကြမ်း)နှင့် B.O.T စာချုပ်(မူကြမ်း)**တို့ အပေါ် ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | (လက်မှတ်) 11/7/15 | (လက်မှတ်) 11/7 |
| အမည် | ဒေါ်ဝင်းမို့မို့အေး | ဒေါ်သန်းသန်းနု |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |
| ဌာနခွဲ | ရင်းနှီး(၃) | ရင်းနှီး(၃) |

**ညွှန်ကြားရေးမှူး**

၃။ (လက်ရေး) 13.7

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရက-၄ /န-၀၂၉/၂၀၁၅( ၄၉၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၈ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်းကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်း နှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကြိုတင် စိစစ်ပေးပါရန် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့်ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(လင်းထွဋ်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

လျို့ဝှက်

## ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. ၏ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်/ကမကထပြုသူ</td><td>-</td><td>ဦးကြွင်စိန်(ခ)ချန်ကျန်စိန်</td></tr>
<tr><td>၂။</td><td>ဖွဲ့စည်းမှုပုံစံ</td><td>-</td><td>ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ(၄၉%<br>မြန်မာနိုင်ငံ KNL Development Co., Ltd. မှ (၅<br>ဖက်စပ်ပြု၍ KMOT Co., Ltd. တည်ထောင်<br>ဖြစ်ပါသည်။</td></tr>
<tr><td>၃။</td><td>တည်နေရာ</td><td>-</td><td>တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာ<br>ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက</td></tr>
<tr><td>၄။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>-</td><td>ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း</td></tr>
<tr><td>၅။</td><td>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</td><td>-</td><td>
<table>
<tr><td></td><td>နိုင်ငံခြားသား ထည့်ဝင်မှု (US$ ) ၄၉ %</td><td>နိုင်ငံသား ထည့်ဝင်မှု (ကျပ်/သန်း) ၅၁ %</td><td>စုစုပေါင်း ထည့်ဝင်မှု (US$ million)</td></tr>
<tr><td>ငွေသား</td><td>၁,၂၇၅,၀၀၀</td><td>၂၄၆.၄၈</td><td>၁.၂</td></tr>
<tr><td>စက်ပစ္စည်းကိရိယာများ</td><td>၅၃,၀၀၀</td><td>-</td><td>၀.၀၅</td></tr>
<tr><td>အဆောက်အဦ</td><td>-</td><td>၈.၆၂၆၈</td><td>၈.၆၂၆</td></tr>
<tr><td>တည်ဆောက်ရေးစရိတ်</td><td>-</td><td>၂၁၈၇.၅၁</td><td>၂၁၈၇.၅</td></tr>
<tr><td>စုစုပေါင်း</td><td>၁,၃၂၈,၀၀၀</td><td>၂၄၄၂.၆၁</td><td>၂.၅၀</td></tr>
</table>
</td></tr>
<tr><td>၆။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>-</td><td>(၅၀) နှစ်</td></tr>
<tr><td>၇။</td><td>တည်ဆောက်ရေးကာလ</td><td>-</td><td>(၃)နှစ်</td></tr>
<tr><td>၈။</td><td>ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြုစုထားသည့် မြေငှားစာချုပ်ပါ အချက် များ နှင့် B.O.T စာချုပ် (မူကြမ်း) ပါ အဓိက အချက်များ</td><td>-</td><td>(က) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှ<br>အမေရိကန်ဒေါ်လာ ၃၃ နှုန်းဖြင့် မြေ (၉၀၀) ဧ<br>အတွက် အမေရိကန်ဒေါ်လာ ၂၉,၇၀၀ အား စာချ<br>လက်မှတ်ရေးထိုးပြီးသည့်နေ့တွင် လုပ်ကိုင်ခွင့်ပြုသူ<br>ငွေစာရင်း ခေါင်းစဉ်သို့ ပေးသွင်းရမည်။ (မြေငှား စာချ<br>အပိုဒ် ၇-၁)<br>(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြ<br>ကာလမှာ နှစ်(၅၀) နှင့် သက်တမ်းတိုးကာလ</td></tr>
</table>

နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။ (...
စာချုပ် အပိုဒ် ၅-၁၊ ၆-၁ )

(ဂ) နှစ်စဉ် မြေငှားရမ်းခအား အောက်ပါအတိုင်း ခွဲ...
ပေးသွင်းရမည်- (မြေငှား စာချုပ် အပိုဒ် ၇-၂ )

| | | | |
|---|---|---|---|
| (က) | အသုံးပြုနိုင်သော မြေ ၆၀ ဧက | တစ်ဧကလျှင် US$ ၁၄၀.၀၀ | US$ ၈... |
| (ခ) | အရန်ထားရှိသည့် မြေ ၉၈ ဧက | တစ်ဧကလျှင် US$ ၇.၀၀ | US$ ၆... |
| (ဂ) | အကာအကွယ်ပေးသည့် မြေ ၇၄၂ ဧက | တစ်ဧကလျှင် US$ ၂.၂၅ | US$ ၁၆... |
| | **မြေ (၉၀၀) ဧက** | **စုစုပေါင်း** | **US$ ၁၀၇၅၆...** |

(ဃ) နှစ်စဉ် မြေငှားရမ်းခဖြစ်သည့် US$ ၅၄၀၀ အား ...
အကြိမ် ပေးချေရမည်ဖြစ်ပြီး ဒုတိယအကြိမ် ပေး...
မည့် ငွေမှာ US$ ၅၃၅၆ ဖြစ်သည်။ (မြေငှား စာ...
အပိုဒ် ၇-၄ )

(င) မြေငှားရမ်းခ ပေးသွင်းရန် နောက်ကျပါက တစ်ရက်...
US$ ၅၀ နှုန်းဖြင့် ထပ်မံ ပေးသွင်းရမည်။ (မြေငှား စာ...
အပိုဒ် ၇-၆)

(စ) တည်ဆောက်ရေးကာလမှာ မြေငှားစာချုပ် လက်...
ရေးထိုးသည့်နေ့မှစ၍ (၃၆)လ ဖြစ်သည်။ (စာချုပ်အ...
၈-၁)

၉။ ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်) -

| အခန်းအမျိုးအစား/ အရေအတွက် | ဝန်ဆောင်နိုင်မည့် အရေအတွက် (unit) ၆၀% | ဝန်ဆောင်ခနှု... (ကျပ်/ US$) |
|---|---|---|
| Beach Front Pool Villa | ၁၆ ခန်း | ၂၁၅၆၇၀/၁၄... |
| Sunset Set Pool Villa | ၄ ခန်း | ၃၆၉၇၂၀/၃၆... |

၁၀။ ဝင်ငွေ (၆ နှစ်မြောက်) - ကျပ် ၁၁၀၄.၃၉ သန်း၊ US$ ၀.၇၄ သန်း

၁၁။ အသားတင်အမြတ် (၆ နှစ်မြောက်) - ကျပ် ၄၅၁.၄၄ သန်း

| ၁၂။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - | ၅၆ ဦး |
|---|---|---|---|
| ၁၃။ | အရင်းကြေကာလ | - | ၅ နှစ် နှင့် ၇ လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - | ၉.၉၅ % |
| ၁၅။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | -<br>- | US$ ၁၁၂.၈၆ သန်း<br>ကျပ် ၅၅.၂၂ သန်း၊ US$ ဝ.ဝ၄ သန်း |
| ၁၆။ | ငွေကြေးအထောက်အထား | -<br><br><br><br>- | ကျပ်ငွေအထောက်အထားအဖြစ် KNL Development ( Ltd. အမည်ဖြင့် KBZ ဘဏ်ရှိ(၃-၆-၂၀၁၅)နေ့ရှိ ငွေလက်ကျပ် (၂၈ဝ.၁၁)သန်း တင်ပြထားရာ သုံးစွဲမည့် ငွေ (၂၄၄၂.၆၁) သန်းအတွက် ၁၁.၄၆ % ရှိကြေ တင်ပြထားပါသည်။<br>နိုင်ငံခြားငွေအဖြစ် Mr. Amnaj Tanaka အမည် Bangkok ဘဏ်ရှိ (၂၉-၁-၂၀၁၄)နေ့ ငွေလက်ကျန် ၅၂၇၉၇.၃၁ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | အခြားတင်ပြချက် | -<br>-<br><br><br>-<br>-<br><br>-<br>-<br>- | ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြထားပါသည်။<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co., Ltd. အကြား မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T စနစ် သဘောတူ စာချုပ်(မူကြမ်း)များအား ပြည်ထောင်စု အ အဖွဲ့မှ ခွင့်ပြုကြောင်း အကြောင်းကြားထားပါသည်။<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တ ထားပါသည်။<br>ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ရန် Phase 1, Phase Phase 3 ခွဲခြားထားပြီး ယခု တင်ပြချက်မှာ Phase 1 အတ ဖြစ်ပါသည်။<br>ကိုယ်ပိုင်မီးစက် (Generator-150 KVA)အသုံးပြုမည် ကြောင်း တင်ပြထားပါသည်။<br>ကာစီနိုလောင်း ကစားဝိုင်းများ ဆောင်ရွက်ခြင်း မပြုလုပ် ကြောင်း တင်ပြထားပါသည်။<br>လုပ်ငန်း၏ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % အ လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corpora Social Responsibi lity - CSR) အဖြစ် သုံးစွဲသွားမည် ကြောင်း ဝန်ခံကတိစာအား တင်ပြထားပါသည်။ |

| ၁၈။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - | ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် နှင့် အ<br>အနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ကုမ္ပ<br>တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ |
|---|---|---|---|
| | | - | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်<br>ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T<br>ဖြင့် သဘောတူ စာချုပ်(မူကြမ်း)များအား ကော်မရှင် ရုံးအ<br>အသေးစိတ် စိစစ်မည် ဖြစ်ပါသည်။ |
| | | - | လုပ်ငန်းဆောင်ရွက်မည့် မြေအကျယ်အဝန်းမှာ ဧက(<br>ဖြစ်ပါသည်။ |
| | | - | ကတိဝန်ခံချက်တွင် အမျိုးသား ယဉ်ကျေးမှုနှင့် ပတ်သ<br>ထိန်းသိမ်း သွားနိုင်ရေးအတွက် သက်ဆိုင်ရာ ဌာန/<br>အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလို<br>ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြရန် |
| | | - | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်အရ ချု<br>မည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T စနစ်<br>သဘောတူ စာချုပ်(မူကြမ်း)များအား ကော်မရှင် ရုံးအ<br>ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် နှင့်အ<br>ပြင်ဆင်ထားခြင်း ရှိ-မရှိအပေါ် စိစစ်ပြီးလျှင် ပြင်ဆင<br>လိုအပ်ပါက ပြင်ဆင် တင်ပြပေးရန်။ |
| | | - | အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်း<br>နှင့် သစ်တောရေးရာဝန်ကြီးဌာန နှင့် ဟိုတယ်နှင့် ခရီးသ<br>လာရေးလုပ်ငန်းဝန်ကြီးဌာန တို့ထံသို့ သဘောထား<br>တောင်းခံမည်ဖြစ်ပါသည်။ |

## ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. ၏ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - | ဦးကြင်စိန်(ခ)ချန်ကျန်စိန် |
| ၂။ | ဖွဲ့စည်းမှုပုံစံ | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ထိုင်းနိုင်ငံ Infinite Creation Co., Ltd. မှ(၄၉% မြန်မာနိုင်ငံ KNL Development Co., Ltd. မှ (၅ ဖက်စပ်ပြု၍ KMOT Co., Ltd. တည်ထောင် ဖြစ်ပါသည်။ |
| ၃။ | တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာ ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | (အောက်ပါဇယားတွင်ကြည့်ပါ) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | (၅၀) နှစ် |
| ၇။ | တည်ဆောက်ရေးကာလ | - | (၃)နှစ် |
| ၈။ | ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြုစုထားသည့် မြေငှားစာချုပ်ပါ အချက် များနှင့် B.O.T စာချုပ် (မူကြမ်း) ပါ အဓိက အချက်များ | - | (က) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧက အမေရိကန်ဒေါ်လာ ၃၃ နှုန်းဖြင့် မြေ (၉၀၀) အတွက် အမေရိကန်ဒေါ်လာ ၂၉,၇၀၀ အား စာ လက်မှတ်ရေးထိုးပြီးသည့်နေ့တွင် လုပ်ကိုင်ခွင့်ပြု ငွေစာရင်း ခေါင်းစဉ်သို့ ပေးသွင်းရမည်။ (မြေငှား စာ အပိုဒ် ၇-၁)<br>(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်း ကာလမှာ နှစ်(၅၀) နှင့် သက်တမ်းတိုးကာလ |

အပိုဒ် ၅ ပါ ဇယား:

| | နိုင်ငံခြားသား ထည့်ဝင်မှု (US$ ) ၄၉ % | နိုင်ငံသား ထည့်ဝင်မှု (ကျပ်/သန်း) ၅၁ % | စုစုပေါ ထည့်ဝင် (US$ million) |
|---|---|---|---|
| ငွေသား | ၁,၂၇၅,၀၀၀ | ၂၄၆.၄၈ | ၁.၂ |
| စက်ပစ္စည်း ကိရိယာများ | ၅၃,၀၀၀ | - | ၀.၀ |
| အဆောက်အဦ | - | ၈.၆၂၆၈ | ၈.၆၂၆ |
| တည်ဆောက် ရေးစရိတ် | - | ၂၁၈၇.၅၁ | ၂၁၈၇.၅ |
| **စုစုပေါင်း** | **၁,၃၂၈,၀၀၀** | **၂၄၄၂.၆၁** | **၂.၅** |

နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။ (
စာချုပ် အပိုဒ် ၅-၁ ၊ ၆-၁ )

(ဂ) နှစ်စဉ် မြေငှားရမ်းခအား အောက်ပါအတိုင်း ခွဲ
ပေးသွင်းရမည်- (မြေငှား စာချုပ် အပိုဒ် ၇-၂ )

| | | | |
|---|---|---|---|
| (က) | အသုံးပြုနိုင်သော မြေ ၆၀ ဧက | တစ်ဧကလျှင် US$ ၁၄၀ .၀၀ | US$ ၈ |
| (ခ) | အရန်ထားရှိသည့် မြေ ၉၈ ဧက | တစ်ဧကလျှင် US$ ၇.၀၀ | US$ ၆ |
| (ဂ) | အကာအကွယ်ပေးသည့် မြေ ၇၄၂ ဧက | တစ်ဧကလျှင် US$ ၂.၂၅ | US$ ၁ |
| | **မြေ (၉၀၀) ဧက** | **စုစုပေါင်း** | **US$ ၁၀၇၅** |

(ဃ) နှစ်စဉ် မြေငှားရမ်းခဖြစ်သည့် US$ ၅၄၀၀ အား
အကြိမ် ပေးချေရမည်ဖြစ်ပြီး ဒုတိယအကြိမ် ပေး
မည့် ငွေမှာ US$ ၅၃၅၆ ဖြစ်သည်။ (မြေငှား စာ
အပိုဒ် ၇-၄ )

(င) မြေငှားရမ်းခ ပေးသွင်းရန် နောက်ကျပါက တစ်ရက်
US$ ၅၀ နှုန်းဖြင့် ထပ်မံ ပေးသွင်းရမည်။ (မြေငှား စာ
အပိုဒ် ၇-၆)

(စ) တည်ဆောက်ရေးကာလမှာ မြေငှားစာချုပ် လက်
ရေးထိုးသည့်နေ့မှစ၍ (၃၆)လ ဖြစ်သည်။ (စာချုပ်အ
၈-၁)

၉။ ဝန်ဆောင်နိုင်မှု (၆ နှစ် မြောက်) -

| **အခန်းအမျိုးအစား/ အရေအတွက်** | **ဝန်ဆောင်နိုင်မည့် အရေအတွက် (unit) ၆၀%** | **ဝန်ဆောင်ခနှု (ကျပ်/ US$)** |
|---|---|---|
| Beach Front Pool Villa | ၁၆ ခန်း | ၂၁၅၆၇၀/၁၄ |
| Sunset Set Pool Villa | ၄ ခန်း | ၃၆၉၇၂၀/၃၆ |

၁၀။ ဝင်ငွေ (၆ နှစ်မြောက်) - ကျပ် ၁၁၀၄.၃၉ သန်း၊ US$ ၀.၇၄ သန်း

၁၁။ အသားတင်အမြတ် (၆ နှစ်မြောက်) - ကျပ် ၄၅၁.၄၄ သန်း

| ၁၂။ | ဝန်ထမ်းအင်အား ပြည်တွင်း | - | ၅၆ ဦး |
|---|---|---|---|
| ၁၃။ | အရင်းကြေကာလ | - | ၅ နှစ် နှင့် ၇ လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - | ၉.၉၅ % |
| ၁၅။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | -<br>- | US$ ၁၁၂.၈၆ သန်း<br>ကျပ် ၅၅.၂၂ သန်း၊ US$ ၀.၀၄ သန်း |
| ၁၆။ | ငွေကြေးအထောက်အထား | -<br>- | ကျပ်ငွေအထောက်အထားအဖြစ် KNL Development Ltd. အမည်ဖြင့် KBZ ဘဏ်ရှိ(၃-၆-၂၀၁၅)နေ့ရှိ ငွေလက် ကျပ် (၂၈၀.၀၁)သန်း တင်ပြထားရာ သုံးစွဲမည့် ငွေ (၂၄၄၂.၆၁) သန်းအတွက် ၁၁.၄၆ % ရှိကြေ တင်ပြထားပါသည်။<br>နိုင်ငံခြားငွေအဖြစ် Mr. Amnaj Tanaka အမည် Bangkok ဘဏ်ရှိ (၂၉-၁-၂၀၁၄)နေ့ ငွေလက်ကျန် ၅၂၇၉၇.၃၁ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | အခြားတင်ပြချက် | -<br>-<br>-<br>-<br>-<br>-<br>- | ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြထားပါသည်။<br>တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် KMOT Co., Ltd အကြား မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T စနစ် သဘောတူ စာချုပ်(မူကြမ်း)များအား ပြည်ထောင်စု အ အဖွဲ့မှ ခွင့်ပြုကြောင်း အကြောင်းကြားထားပါသည်။<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တ ထားပါသည်။<br>ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ရန် Phase 1, Phase Phase 3 ခွဲခြားထားပြီး ယခု တင်ပြချက်မှာ Phase 1 အတ ဖြစ်ပါသည်။<br>ကိုယ်ပိုင်မီးစက် (Generator-150 KVA)အသုံးပြုမည် ကြောင်း တင်ပြထားပါသည်။<br>ကာစီနိုလောင်း ကစားဝိုင်းများ ဆောင်ရွက်ခြင်း မပြုလု ကြောင်း တင်ပြထားပါသည်။<br>လုပ်ငန်း၏ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % အ လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corpora Social Responsibility - CSR) အဖြစ် သုံးစွဲသွားမည် ကြောင်း ဝန်ခံကတိစာအား တင်ပြထားပါသည်။ |

| ၁၈။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | -<br><br><br>-<br><br><br><br>-<br><br>-<br><br><br><br>-<br><br><br><br><br><br>- | ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် နှင့် ဒ<br>အနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ကုမ္ပ<br>တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက<br>ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T<br>ဖြင့် သဘောတူ စာချုပ်(မူကြမ်း)များအား ကော်မရှင် ရုံးအ<br>အသေးစိတ် စိစစ်မည် ဖြစ်ပါသည်။<br>လုပ်ငန်းဆောင်ရွက်မည့် မြေအကျယ်အဝန်းမှာ ဧက(<br>ဖြစ်ပါသည်။<br>ကတိဝန်ခံချက်တွင် အမျိုးသား ယဉ်ကျေးမှုနှင့် ပတ်သ<br>ထိန်းသိမ်း သွားနိုင်ရေးအတွက် သက်ဆိုင်ရာ ဌာန/<br>အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလို<br>ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြရန်<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်အရ ချ<br>မည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T စနစ်<br>သဘောတူ စာချုပ်(မူကြမ်း)များအား ကော်မရှင် ရုံးအ<br>ပြည်ထောင်စု ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် နှင့်အ<br>ပြင်ဆင်ထားခြင်း ရှိ-မရှိအပေါ် စိစစ်ပြီးလျှင် ပြင်ဆ<br>လိုအပ်ပါက ပြင်ဆင် တင်ပြပေးရန်။<br>အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်း<br>နှင့် သစ်တောရေးရာဝန်ကြီးဌာန နှင့် ဟိုတယ်နှင့် ခရီးသ<br>လာရေးလုပ်ငန်းဝန်ကြီးဌာန တို့ထံသို့ သဘောထား<br>တောင်းခံမည်ဖြစ်ပါသည်။ |
|---|---|---|---|

ရင်းနှီး(၃)မှ ပေးပို့ခြင်း

PAT (၂၄/၂၀၁၅)အစည်းအဝေးသို့ တင်ပြခြင်း

**နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်**

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စုရှိ လှိုက်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧကပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ

**အထူးဖိတ်-**

ညွှန်ကြားရေးမှူးချုပ်

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

၀၆၇-၄၀၆၄၀၆

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၇ ရက်

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာ အုပ်စုရှိ လှိုဏ်ဂူကျွန်း၊ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ KNL Development Co., Ltd. မှ ၅၁ % နှင့် ထိုင်းနိုင်ငံ Infinite Creation Co., Ltd မှ ၄၉ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KMOT Co., Ltd. တည်ထောင်ပြီး တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၊ လှိုဏ်ဂူကျွန်းရှိ မြေဧရိယာ(၉၀၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် သဘာဝကို အခြေခံသော အပန်းဖြေစခန်းနှင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၅) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ**အား ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | 7/7/15 | 7/7 |
| အမည် | ဒေါ်ဝင်းမို့မို့အေး | ဒေါ်သန်းသန်းနု |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်မှူး |
| ဌာနခွဲ | ရင်းနှီး(၃) | ရင်းနှီး(၃) |

**ညွှန်ကြားရေးမှူး**

၃။

**နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဝန်ဆောင်မှုလုပ်ငန်းအဆိုပြုချက်တင်ပြရာတွင် ပါဝင်ရမည့် အဓိကလိုအပ်ချက်များ**

ကဏ္ဍ - ဝန်ဆောင်မှုလုပ်ငန်းများ၊ အခြေခံ အဆောက်အအုံလုပ်ငန်းများနှင့် အခြား ဆက်စပ်လုပ်ငန်းများ (ဆောက်လုပ်ရေးကဏ္ဍ၊ ပို့ဆောင်ရေးကဏ္ဍ၊ ဆက်သွယ်ရေးကဏ္ဍ၊ လျှပ်စစ်ကဏ္ဍ၊ ဟိုတယ် ဝန်ဆောင်မှုကဏ္ဍ၊ အိမ်ရာအဆောက်အဦ တည်ဆောက် ဖွံ့ဖြိုးမှုကဏ္ဍ၊ စက်မှုဇုန်ကဏ္ဍ ပုဂ္ဂလိက ဆေးရုံ/ ဆေးခန်း ဝန်ဆောင်မှုလုပ်ငန်းများ၊ ပုဂ္ဂလိကကျောင်း ဝန်ဆောင်မှုလုပ်ငန်းများ)

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **အဆိုပြုလွှာတင်ပြရန်** | |
| | (က)BOT စနစ်ဖြင့်လမ်းပြုပြင်ဖောက်လုပ်/ အဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်ထားသော BOT စာချုပ်(မူကြမ်း)နှင့်အတူ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြရန်၊ | n.c |
| | (ခ) လေကြောင်းလိုင်း တည်ထောင်ခြင်းလုပ်ငန်းအတွက် ပို့ဆောင်ရေးဝန်ကြီး ဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခွင့်ပြုချက်ရယူပြီး ဌာနမှ တစ်ဆင့် တင်ပြရန်၊ | n.c |
| | (ဂ) ဆက်သွယ်ရေးလုပ်ငန်း၊ ယင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းဖြစ် ပါက ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြရန်၊ | n.c |
| | (ဃ) အကြီးစား လျှပ်စစ် ဓါတ်အား ထုတ်လုပ်ခြင်း ဖြစ်ပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း)နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာန/ သက်ဆိုင်ရာတိုင်းဒေသကြီး/ ပြည်နယ်မှ တစ်ဆင့် တင်ပြရန်၊ | n.c |
| ၂။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ** | |
| | (က) ကိုယ်ပိုင်မြေ ဖြစ်ပါက စက်မှုဂရန်၊ လန၊ စည်ပင်မြေစသည်ဖြင့် မြေ အမျိုးအစားအလိုက် ပိုင်ဆိုင်မှု အထောက်အထား (သို့မဟုတ်) လျှောက်ထား ဆဲ အထောက်အထား(သို့မဟုတ်) မြေစာရင်းပုံစံ (၁၀၅) အထောက်အထား နှင့်အတူ ကုမ္ပဏီမှ တင်ပြရန်၊ မြေပိုင်ဆိုင်မှုမှာ ခိုင်မာမှုရှိရန်၊ | n.c |
| | (ခ) ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်လျှင် အငှား စာချုပ် (မူကြမ်း) | n.c |
| | (ဂ) ဌာနပိုင်မြေ အဆောက်အဦပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | ✓ |
| ၃။ | **စက်ပစ္စည်းများ/ တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ** | |
| | (က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း(အသေးစိတ်) | ✓ |
| | (ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း(အသေးစိတ်) | ✓ |

